၂၆.၁၁.၂၀၁၃


MYANMA ECONOMIC HOLDINGS LIMITED

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

397409, 397453, 397458, 397471, 397472

95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar


Reference No. ၄/၄/အခရ/ပိုင်(၅၈၁၃၉ / ၂၀၁၃)

Date ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ(၂၆)ရက်

သို့

တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး
ထားဝယ်မြို့

အကြောင်းအရာ ။ ။ **မြေပုံရေးကူးခွင့်နှင့်စက်မှုမြေအဖြစ်အသုံးချခွင့်လျှောက်ထားတင်ပြခြင်း**

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ ထူးကုမ္ပဏီများအုပ်စုနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ GDZR Co. တို့ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့၏တောင်ဘက်(၃)မိုင်ခန့်အကွာရှိ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင်ဆိုင်သောဆီအုန်းခြံများနှင့် ၎င်းနေရာတစ်ဝိုက်တွင် (၁)နှစ်လျှင်ရေနံစိမ်းတန်ချိန်(၅)သန်းချက်လုပ်နိုင်သည့် [illegible]စက်ရုံစီမံကိန်းတည်ဆောက်ရန် ဆောင်ရွက်လျက်ရှိပါသည်။

စက်ရုံတည်ဆောက်ရန်အတွက် လိုအပ်လျက်ရှိသည့်မြေဧရိယာကို သုံးစွဲနိုင်ရန်အတွက် ပုဂ္ဂလိကပိုင်ပြုလုပ်ရေး [illegible] စက်မှုဝန်ကြီးဌာနတို့၏ခွင့်ပြုချက်ဖြင့် အောက်ပါအကျယ်အဝန်းရှိသောဆီအုန်းစက်ရုံနှင့် ဆီအုန်းခြံ(၉)ခြံကို ငွေ [illegible] ၂၅၄၆ သန်းဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှဝယ်ယူခဲ့ပြီး ၂၃-၃-၂၀၁၂ ရက်နေ့တွင် လွှဲပြောင်းလက်ခံ[illegible]ပါသည် -

| | | | |
|---|---|---|---|
| (က) | အမှတ်(၁)ဆီအုန်းခြံ (လောင်းလုံခြံ) | - ၁၇၃. ၀၇ | ဧက |
| | (၁၇၃. ၀၇ ဧကအနက် စက်ရုံမြေ ၂၄. ၇၇ ဧက လန-၃၉ ရရှိပြီး) | | |
| (ခ) | အမှတ်(၂)ဆီအုန်းခြံ (ပိုးဇာပင်ခြံ) | - ၂၂၆. ၀၀ | ဧက |
| (ဂ) | အမှတ်(၃)ဆီအုန်းခြံ (ညင်းမော်ခြံ) | - ၁၃၀. ၀၀ | ဧက |
| (ဃ) | အမှတ်(၄)ဆီအုန်းခြံ (ရေပြတ်ချောင်းခြံ) | - ၁၂၀. ၀၀ | ဧက |
| (င) | အမှတ်(၅)ဆီအုန်းခြံ (လေးသွန်းခံခြံ) | - ၂၈၃. ၀၀ | ဧက |
| (စ) | အမှတ်(၆)ဆီအုန်းခြံ (ဂေါ့အင်းခြံ) | - ၁၈၃. ၀၀ | ဧက |
| (ဆ) | အမှတ်(၇)ဆီအုန်းခြံ (အနောက်ပြင်ခြံ) | - ၇၇. ၀၀ | ဧက |
| (ဇ) | အမှတ်(၈)ဆီအုန်းခြံ (သရက်ပင်ကြီးခြံ) | - ၁၃၄. ၀၀ | ဧက |
| (ဈ) | အမှတ်(၉)ဆီအုန်းခြံ (ပြင်းထိန်ခြံ) | - ၃၁၀. ၀၇ | ဧက |
| | စုစုပေါင်း | ၁၆၃၆. ၁၄ | ဧက |

၃။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အနေဖြင့် ရေနံချက်စက်ရုံတည်ဆောက်ရေးစီမံကိန်းအား လုပ်ကိုင်ခွင့်ပြုချက်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ၁/၂၀၁၄ တွင် တင်ပြမည်ဖြစ်ပါသည်။ ဤသို့တင်ပြရာ၌ ဝယ်ယူထားသောဆီအုန်းခြံ ၁၆၃၆. ၁၄ ဧကတွင် ဆီအုန်းစက်ရုံမြေ ၂၄. ၇၇ ဧကမှာ လန-၃၉ ရရှိပြီးဖြစ်၍ ကျန်ရှိသည့် ၁၆၁၁. ၃၇ ဧကအနက် စက်ရုံတည်ဆောက်ရေးလုပ်ငန်း၏ ပထမအဆင့်အနေဖြင့် လိုအပ်သည့်မြေဧရိယာ ၃၃၃ ဧကကို လယ်ယာမြေအားအခြားနည်းဖြင့် အသုံးပြုခွင့်လျှောက်ထားသွားလိုပါသည်။

၄။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ဆီအုန်းခြံ(၉)ခြံအနက် ခြံအမှတ်(၂)မှာ ပြောင်းရွှေ့ပေးရမည့်ဒေသခံများအတွက်လျာထားသတ်မှတ်ထားခြင်း၊ ခြံအမှတ်(၇)(၈)(၉)တို့မှာ လက်ရှိအခြေအနေတွင် စက်ရုံစီမံကိန်းအတွက် သုံးစွဲရန်မရှိခြင်းတို့ကြောင့် ယခုလျှောက်ထားမှုတွင် ခြံအမှတ် (၂)နှင့်(၇)(၈)(၉)တို့ကို လျှောက်ထားခြင်းမပြုပါ။

၅။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့်ပူးပေါင်းဆောင်ရွက်သည့်ကုမ္ပဏီတို့သည် စက်ရုံစီမံကိန်းတည်ဆောက်ရန်အတွက် နိုင်ငံခြားငွေနှင့်မြန်မာငွေနှစ်ရပ်လုံး အလုံအလောက်ရှိသည့်အပြင် ပစ္စည်းအင်အား၊ ယာဉ်ယန္တရားအင်အားနှင့်ကျွမ်းကျင်သူလုပ်သားများ ပြည့်စုံစွာထားရှိပြီးဖြစ်ပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက(၃)နှစ် အတွင်းအပြီးတည်ဆောက်မည်ဖြစ်ပါသည်။ ၎င်းအပြင် မြေဧရိယာတစ်ခုချင်းအလိုက် ဆောင်ရွက်မည့်တည်ဆောက်ရေးလုပ်ငန်းအစီအစဉ်ကိုလည်း ပူးတွဲ၍တင်ပြထားပါသည်။

၆။ သက်ဆိုင်ရာဝန်ကြီးဌာနမှ ချမှတ်ထားသောလယ်ယာမြေဥပဒေ၊ နည်းဥပဒေများအရ လယ်ယာမြေအား အခြားနည်းလမ်းဖြင့် အသုံးပြုခွင့်ရရှိပြီး(၆)လအတွင်း သတ်မှတ်နည်းလမ်းအတိုင်း စတင်အသုံးမပြုခြင်း၊ သတ်မှတ်ကာလအတွင်းလုပ်ငန်းပြီးစီးမှုမရှိခြင်းတို့ဖြစ်ပေါ်ပါက ရရှိပြီးခွင့်ပြုမိန့်ပယ်ဖျက်ရန်အတွက် ကွင်းဆင်းရန်တာဝန်ပေးအပ်ထားသည့်အဖွဲ့၏ဆုံးဖြတ်ချက်နှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့တို့၏ဆုံးဖြတ်ချက်အား တိကျစွာလိုက်နာမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ပူးတွဲမြေပုံပါ ဆီအုန်းခြံအကွက်အမှတ်(၁) လောင်းလုံးခြံ ၃၃ ဧက၊ အကွက်အမှတ်(၄) ရေပြတ်ချောင်းခြံ ၆၀ ဧက၊ အကွက်အမှတ်(၅) လေးသွန်းခံခြံ ၂၀၀ ဧက၊ အကွက်အမှတ်(၆) ဂေါ်အင်းခြံ ၄၀ ဧက စုစုပေါင်း ၃၃၃ ဧကကို မြေပုံရေးကူးဆောင်ရွက်ခွင့်နှင့် စက်မှုမြေအဖြစ် အသုံးပြုခွင့်တို့အတွက် ခွင့်ပြုပေးနိုင်ပါရန် အောက်ပါစာရွက်စာတမ်းများနှင့်တကွ လျှောက်ထားအပ်ပါသည် -

(က) လုပ်ငန်းလျာထားအခြေပြဇယား (၁)စောင်

(ခ) ခြံအမှတ်(၁) ၃၃ ဧကအတွက် Google မြေပုံ (၁)စောင်

(ဂ) ခြံအမှတ်(၄)(၅)(၆) ဧက ၃၀၀ အတွက် Google မြေပုံ (၁)စောင်

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
သန်းထွန်း၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို

- တိုင်းအုပ်ချုပ်ရေးမှူး၊ တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ထားဝယ်မြို့
- တိုင်းမြေစာရင်းဦးစီးမှူး၊ တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန၊ ထားဝယ်မြို့
- ရုံးလက်ခံ/မျှော

# လောင်းလုံးမြို့ရှိ ဆီအုန်းခြံများတွင် တည်ဆောက်မည့်လုပ်ငန်းအတွက် လုပ်ငန်းလျာထားအခြေပြဇယား

| စဉ် | ခြံအမည် | တည်နေရာနှင့် ကွင်းအမှတ် | မူလဧရိယာ (ဧက) | အသုံးပြုဧရိယာ (ဧက) | အသုံးပြုမည့်လုပ်ငန်း | လုပ်ငန်းရည်မှန်းချက် | | | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | | | | | ပထမ (၆)လ | ဒုတိယ (၆)လ | တတိယ (၆)လ | |
| ၁။ | လောင်းလုံးခြံ | ယ ရပ်ကွက် (၂၁၄) | ၁၇၃. ၀၇ | ၃၃ | ဝန်ထမ်းအိမ်ရာ | မြေကြီးလုပ်ငန်း ၅၀% | မြေကြီးလုပ်ငန်း ၅၀% | အဆောက်အဦလုပ်ငန်း ၅၀% | |
| ၂။ | ရေပြတ်ချောင်းခြံ | ယင်းဘုတ်ကျေးရွာ (၅၁၀) | ၁၂၀ | ၆၀ | စက်ရုံနေရာ | ။ | ။ | ။ | |
| ၃။ | လေးသွန်းခံခြံ | လေးသွန်းခံရွာ (၂၂၉) | ၂၈၃ | ၂၀၀ | စက်ရုံနေရာ. | ။ | ။ | ။ | |
| ၄။ | ဂေါ့အင်းခြံ | ဂေါ့အင်းရွာ (၅၁၉) | ၁၈၃ | ၄၀ | စက်ရုံနေရာ | ။ | ။ | ။ | |




မျဉ်းနီအတွင်းရှိ အကွက်အမှတ်(၄) ၆၀ဧက၊ အကွက်အမှတ်(၅) ၂၀၀ဧက၊ အကွက်အမှတ်(၆) ၄၀ဧက နှင့် အကွက်အမှတ်(၁)ရှိ ၃၃ဧက စုစုပေါင်း ၃၃၃ ဧကကို
စက်မှုမြေအဖြစ် ပထမဦးစွာ လျှောက်ထားသွားပါမည်။

တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ ရုံး
စာအမှတ်……………
ရက်စွဲ……………
ထားဝယ်မြို့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ဖေ၁/ ၇၁၁ / ၇-၁၁ /အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်

သို့
တိုင်းဒေသကြီးဦးစီးမှူး
တနင်္သာရီတိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန
ထားဝယ်မြို့

အကြောင်းအရာ။ မြေစာရင်းပုံစံ (၁၀၅)ရေးကူးခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ (၂၆.၁၂.၂၀၁၃) ရက်စွဲပါစာအမှတ်၊ ၄/ ၄/ အခရ/ပိုင် (၅၀၁၉/ ၂၀၁၃)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ ထူးကုမ္ပဏီအုပ်စုနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတော်ရှိ GDZR Co. တို့ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၊ တောင်ဘက် (၃)မိုင်ခန့်အကွာရှိ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် ပိုင်ဆိုင်သော ဆီအုန်းခြံများနှင့် ၎င်းနေရာတဝိုက်တွင် (၁)နှစ်လျှင် ရေနံစိမ်းတန်ချိန် (၅)သန်းချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံ စီမံကိန်းတည်ဆောက်ရန် ဆောင်ရွက်လျက်ရှိကြောင်း၊ စက်ရုံတည်ဆောက်ရန် လိုအပ်လျက်ရှိသည့် မြေဧရိယာကိုသုံးစွဲရန်အတွက် ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်၊ စက်မှုဝန်ကြီးဌာနတို့၏ ခွင့်ပြုချက်ဖြင့် (၁၆၃၆.၁၄)ဧကရှိသည့် ဆီအုန်းခြံ (၉)ခြံကို ငွေကျပ် (၂၆၀၃.၂၅၄၆)သန်းဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဝယ်ယူခဲ့ကြောင်း၊ အဆိုပါ ဆီအုန်းခြံ (၁၆၃၆.၁၄)ဧကအနက်မှ ဆီအုန်းခြံ အကွက်အမှတ်(၁) လောင်းလုံးမြို့ (၃၃)ဧက၊ ဆီအုန်းခြံအကွက်အမှတ်(၄) ရေပြတ်ချောင်းခြံ (၆၀)ဧက၊ အကွက်အမှတ်(၅) လေးသွန်းခံခြံ (၂၀၀)ဧက၊ အကွက်အမှတ်(၆) ဂေါ်အင်းခြံ (၄၀)ဧက၊ စုစုပေါင်း (၃၃၃)ဧကအား မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ရေနံချက်စက်ရုံ တည်ဆောက်ရေးစီမံကိန်း လုပ်ကိုင်ခွင့်ရရှိနိုင်ရန်အတွက် မြေပုံရေးကူးခွင့်ရရှိရန်နှင့် စက်ရုံမြေအဖြစ် အသုံးပြုခွင့် ဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ရေနံချက်စက်ရုံတည်ဆောက်ရေးစီမံကိန်းအတွက် လယ်ယာမြေအခြားနည်းအသုံးပြုခွင့်လျှောက်ထားနိုင်ရေး မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မြေစာရင်းပုံစံ (၁၀၅)ရေးကူးခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(ကျော်စွာထွန်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
/မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်
လက်ခံစာတွဲ/ မျှောစာတွဲ

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**နိုင်ငံတော်သမ္မတဦးစီးရုံး**

စာအမှတ်၊ ၁ (၄၆) / ၁ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

**ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)**
**အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန**
**အမှတ် (၁) စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီး လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းခြံအားဝယ်ယူခွင့် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏ ၁၉-၉-၂၀၁၁ ရက်စွဲပါစာအမှတ်၊ အမစ-၁/၃/၁(၂၅၀၅/၂၀၁၁)
(၂) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၏ ၂၅-၁၀-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၂/ ၃၀၅/၃(ခ)၃၆/ဦး ၁
(၃) အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ ၂၁-၁၁-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၃၁/၁စ(၁)/ ၂၀၁၁(၉၈၈၉)

၁။ ရည်ညွှန်းစာများဖြင့် အမှတ် (၁) စက်မှုဝန်ကြီးဌာန မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းအောက်ရှိ တနင်္သာရီတိုင်းဒေသကြီး ထားဝယ်ခရိုင် လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းစက်ရုံ မြေ (၂၄.၇၇) ဧကနှင့် ဆီအုန်းခြံမြေ (၁၆၁၁.၃၇) ဧက၊ စုစုပေါင်း (၁၆၃၆.၁၄) ဧကအား ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၊ ထူးကုမ္ပဏီနှင့် Guang Dong Zhen Rong Co.,Ltd(GDZR) တို့ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် ရေနံချက်စက်ရုံ တည်ဆောက်ရေးစီမံကိန်းအတွက် စက်ရုံအဆောက်အဦ၊ ရုံးသုံးစက်/ပစ္စည်းများ၊ ဆီအုန်းခြံအပင်နှင့် မြေတန်ဖိုး အပါအဝင် သက်ဆိုင်ရာဝန်ကြီးဌာနက အဆိုပြုတန်ဖိုးကျပ်သန်း (၂၆၀၃.၂၅၄၆) ဖြင့် ဝယ်ယူခွင့်ပြုပါရန် နိုင်ငံတော်သမ္မတထံ တင်ပြလာပါသည်။

၂။ တင်ပြသည့်ကိစ္စနှင့်ပတ်သက်၍ အမှတ် (၁) စက်မှုဝန်ကြီးဌာနကလည်း ရောင်းချပေးနိုင်ကြောင်း သဘောထားပြန်ကြားလာပါသည်။

၃။ တင်ပြချက်အပေါ် နိုင်ငံတော်သမ္မတက ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

၂၂.၁၁.၂၀၁၁
ရဲဝင်း
ဒုတိယညွှန်ကြားရေးမှူးချုပ်

မိတ္တူ။
နိုင်ငံတော်သမ္မတရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
နိုင်ငံပိုင်ပစ္စည်းများအား ပုဂ္ဂလိကပိုင်ပြောင်းလဲရေးကော်မရှင်
ရုံးလက်ခံ

လျှို့ဝှက်

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

စာအမှတ်၊ ၂ /၃၀၅ / ၃ (ခ) ၃၆ / ဦး ၁

ရက် စွဲ၊ ၂၀၁၁ခုနှစ် အောက်တိုဘာလ၂၅ ရက်

တိကျမှန်ကန်

သို့

နိုင်ငံတော်သမ္မတဦးစီးရုံး

အကြောင်းအရာ။ တနင်္သာရီတိုင်းဒေသကြီး၊ လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းခြံအား ဝယ်ယူခွင့်ပြုပါရန် တင်ပြခြင်း

၁။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းအောက်ရှိ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းစက်ရုံ ၂၄.၇၇ ဧကနှင့် ဆီအုန်းခြံ ၁၆၁၁.၃၇ ဧက၊ စုစုပေါင်း ၁၆၃၆.၁၄ ဧကအား ပုဂ္ဂလိကသို့ လွှဲပြောင်းရောင်းချနိုင်ရေးအတွက် နိုင်ငံပိုင်ပစ္စည်းများအား ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်သို့ အပ်နှံထားပြီးဖြစ်ကြောင်း သိရှိရပါသည်။

၂။ အဆိုပါ မြေနေရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ တပ်မတော်နှင့် တပ်မတော်သားများ အကျိုးဖြစ်စေရန် ထူးကုမ္ပဏီနှင့် Guang Dong Zhen Rong Co., Ltd (GDZR) တို့ အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့် တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန် ၅ သန်း ချက်လုပ်နိုင်သော ရေနံချက်စက်ရုံတည်ဆောက်ရေး စီမံကိန်းဆောက်လုပ်လိုပါသဖြင့် စက်ရုံ အဆောက်အဦ၊ ရုံးသုံးစက်/ပရိဘောဂ ဆီအုန်းခြံအဝင်နှင့် မြေနေရာတန်ဖိုး အပါအဝင် သက်ဆိုင်ရာဝန်ကြီးဌာနမှ အဆိုပြုထားသော ကုန်သင့်ငွေ စုစုပေါင်း ၂၆၀၃.၂၅၄၆ ကျပ်သန်းဖြင့် ဝယ်ယူခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ကာကွယ်ရေးဦးစီးချုပ်(ကြည်း)

လျှို့ဝှက်

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**နိုင်ငံတော်သမ္မတဦးစီးရုံး**

စာအမှတ်၊ ၂၃ ( ၉၂ ) / ၁ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၁၄ ရက်

သို့

အမှတ်(၁)စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားပြန်ကြားပေးရေး**

ရည်ညွှန်းချက်။ (၁) အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏ ၁၉-၉-၂၀၁၁ ရက်စွဲပါစာအမှတ်၊ အမစ-၁/၃/၁(၂၅၀၅/၂၀၁၁)

(၂) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၏ ၂၅-၁၀-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၂/၁၀၅/၃(ခ)၃၆/ဦး ၁

၁။ ရည်ညွှန်းစာများဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာန မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းအောက်ရှိ တနင်္သာရီတိုင်းဒေသကြီး ထားဝယ်ခရိုင် လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းစက်ရုံမြေ(၄၄.၇၇)ဧကနှင့် ဆီအုန်းခြံမြေ(၁၆၁၁.၃၇)ဧက၊ စုစုပေါင်း မြေနေရာ(၁၆၃၆.၁၄)ဧကအား ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၊ ထူးကုမ္ပဏီနှင့် Guang Dong Zhen Rong Co.,Ltd(GDZR)တို့ အကျိုးတူပူးပေါင်း ဆောင်ရွက်မည့် တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန် (၅)သန်း ချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံ တည်ဆောက်ရေးစီမံကိန်း ဆောင်ရွက်လိုပါသဖြင့် စက်ရုံ အဆောက်အဦ၊ ရုံးသုံးစက်/ပစ္စည်းများ၊ ဆီအုန်းခြံအပင်နှင့် မြေနေရာတန်ဖိုး အပါအဝင် သက်ဆိုင်ရာဝန်ကြီးဌာနက အဆိုပြုတန်ဖိုး ကျပ်သန်း(၂၆၀၃.၂၅၄၆)ဖြင့် ဝယ်ယူခွင့်ပြုပါရန် နိုင်ငံတော်သမ္မတထံ တင်ပြလာပါသည်။

၂။ တင်ပြချက်အပေါ် နိုင်ငံတော်သမ္မတက " **စက်မှု(၁) ဝန်ကြီး၏ သဘောထားမေးရန်** " လမ်းညွှန်ပါသဖြင့် ပြန်လည်တင်ပြနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ပူးတွဲ။ (၁) ရည်ညွှန်း(၁)ပါ တင်ပြစာမိတ္တူ(၂)ရွက်။
(၂) ရည်ညွှန်း(၂)ပါ တင်ပြစာမိတ္တူ(၁)ရွက်။

၁၄/၁၁/၁၁

ရဲမင်း

ဒုတိယညွှန်ကြားရေးမှူးချုပ်

မိတ္တူ

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရုံးလက်ခံ

လျှို့ဝှက်

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# အမှတ် (၁) စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၂/ ၁စ(၁)/ ၂၀၁၁(၉၈၈၉)

ရက်စွဲ၊ ၂၀၁၁ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်

သို့

နိုင်ငံတော်သမ္မတဦးစီးရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားတင်ပြခြင်း

ရည်ညွှန်း ချက်။ နိုင်ငံတော်သမ္မတရုံး၏ ၂၀၁၁ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့စွဲပါ စာအမှတ်၊ ၂၃(၃၂)/၁/သမ္မတရုံး

အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း လက်အောက်ရှိ ...နယ်ဘီလူးကျွန်တိုင်းဒေသကြီး၊ ထားဝယ်ခရိုင် လောင်းလုံမြို့နယ်အတွင်းရှိ ဆီအုန်းစက်ရုံ မြေ(၂၄.၇၇) ...ကနှင့် ဆီအုန်းခြံမြေ(၁၆၁၁.၃၇)ဧက၊ စုစုပေါင်းမြေဧက(၁၆၃၆.၁၄)ဧကအား ပြည်ထောင်စု ...န်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၊ ထူးကုမ္ပဏီနှင့် Guang Dong Zhen Rong Co., Ltd (GDZR) တို့မှ အကျိုးတူပူးပေါင်း၍ ရေနံချက်စက်ရုံတည်ဆောက်ရေးစီမံကိန်းအတွက် သက်ဆိုင်ရာ ...န်ကြီးဌာနမှ အဆိုပြုတန်ဘိုး ကျပ်သန်း(၂၆၀၃.၂၅၄၆)ဖြင့် ဝယ်ယူလိုမှုအပေါ် သဘောထားမှတ်ချက် ...န်ကြားပေးပါရန် နိုင်ငံတော်သမ္မတဦးစီးရုံးမှ အထက်ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါ သည်။

အဆိုပါ လောင်းလုံဆီအုန်းစက်ရုံ မြေ(၂၄.၇၇)ဧကနှင့် ဆီအုန်းခြံမြေ(၁၆၁၁.၃၇)ဧကအား ...ဝန်ကြီးဌာနမှ အဆိုပြုတန်ဘိုး ကျပ်သန်း(၂၆၀၃.၂၅၄၆)ဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေး ...ပိုင်လီမိတက်၊ ထူးကုမ္ပဏီနှင့် Guang Dong Zhen Rong Co., Ltd (GDZR) သို့ ရောင်းချ ...င့်ပါကြောင်း ပြန်ကြားတင်ပြအပ်ပါသည်။

( စိုးသိန်း )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို-

၁ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

နိုင်ငံပိုင်ပစ္စည်းများအားပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်

လျှို့ဝှက်

51


**MYANMA ECONOMIC HOLDINGS LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်**

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


*Reference No.* ၄/၄/အခရ/ပိုင်(၈၇၁/၂၀၁၆)

*Date* ၂၀၁၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

အတွင်းရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **ရေနံချက်စက်ရုံစီမံကိန်းအတွက် ဆိပ်ခံတံတားမှစက်ရုံအထိ ဖောက်လုပ်မည့်လမ်းအတွက် မြေကိုစွဲရပ်တင်ပြခြင်း**

၁။ စွမ်းအင်ဝန်ကြီးဌာန၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Guangdong Zhenrong Energy Co.,Ltd.၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Yangon Engineering Group Co.,Ltd. တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Longwin Global Petrochemical Co.,Ltd., တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၏တောင်ဘက် သုံးမိုင်ခန့်အကွာ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင်ရေနံစိမ်းမက်ထရစ်တန်ချိန် ၅ သန်း ချက်လုပ်မည့်ရေနံချက်စက်ရုံနှင့် ရေနံတင်/ချဆိပ်ကမ်းတည်ဆောက်၍ ရေနံထွက်ကုန်ပစ္စည်းများတင်ပို့ရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်လုပ်ကိုင်ရန် ဆွေးနွေးညှိနှိုင်းလျက်ရှိပါသည်။

၂။ ရေနံချက်စက်ရုံစီမံကိန်းအတွက် ရေနံတင်/ချမည့်ဆိပ်ကမ်းမှ စက်ရုံအထိ ပိုက်လိုင်းဆက်သွယ်ရန်နှင့် ယာဉ်များသွားလာနိုင်ရန် အကျယ် ၃၀ မီတာခန့်နှင့် အရှည် ၄. ၂၅ မိုင်ခန့်(၆. ၈ ကီလိုမီတာခန့်)ရှိမည့် လမ်းအတွက်အသုံးပြုရန်မြေ ၁၁၀. ၃၉၇ ဧကခန့် လိုအပ်လျက်ရှိပါသည်။ လမ်းဖောက်လုပ်ရန်အတွက်အသုံးပြုမည့်မြေဧရိယာတွင် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင်ဆိုင်သည့် ဆီအုန်းခြံအမှတ်(၄)နယ်နိမိတ်အဆုံးမှ ၂ ကီလိုမီတာခန့်အထိသည် ဒေသခံများပိုင်ဆိုင်သည့် ဥယျာဉ်ခြံမြေ၊ ၎င်းမှ ၂. ၄ ကီလိုမီတာခန့်အထိသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှပိုင်ဆိုင်သည့်မြေ(ခန့်မှန်း ၆ ဧကခန့်)၊ ၎င်းမှ ၆. ၈ ကီလိုမီတာခန့်အထိသည် ဒေသခံများပိုင်ဆိုင်သည့် ဥယျာဉ်မြေများဖြစ်ကြပါသည်။ ဆိပ်ကမ်းဧရိယာအတွက်အသုံးပြုမည့်မြေမှာ ၆၂. ၂၉၅ ဧကခန့်ဖြစ်ပါသည်။ ထို့ကြောင့် လမ်းနှင့်ဆိပ်ကမ်းဧရိယာအတွက် အသုံးပြုမည့်မြေမှာ စုစုပေါင်း ၁၇၂. ၆၉၂ ဧကခန့် ဖြစ်ပါသည်။

၃။ လမ်းဖောက်လုပ်ရန်အတွက်အသုံးပြုမည့်မြေဧရိယာများအတွင်း၌ ပါဝင်သည့်ဥယျာဉ်ခြံမြေများအတွက် ကာလပေါက်ဈေးထက်မနည်းသောဈေးနှုန်းဖြင့် လျော်ကြေးငွေပေးချေရန် ကြိုတင်ညှိနှိုင်းခြင်းများဆောင်ရွက်ခဲ့ရာတွင် သဘောတူညီမှုများ ရရှိခဲ့ပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးပါက ဒေသအာဏာပိုင်အဖွဲ့အစည်းများ၊ ဥယျာဉ်ခြံမြေပိုင်ရှင်များနှင့် ညှိနှိုင်းဆောင်ရွက်ပြီး လိုအပ်သည့်မြေများ တိုင်းတာခြင်း၊ ကာလပေါက်ဈေးထက် မနည်းသော ဈေးနှုန်းဖြင့် လျော်ကြေးငွေပေးချေခြင်းများ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)

ဦးမောင်မောင်အေး၊ ဒါရိုက်တာ

မိတ္တူကို

ရုံးလက်ခံ

၁၅၁၃.

# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

**Reference No.** ၄/၄/အခရ/ပိုင်(၈၅၆ /၂၀၁၆)

**Date** ၂၀၁၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ ရေနံချက်စက်ရုံစီမံကိန်းအတွက် လမ်းလွှဲဖောက်မည့်ကိစ္စရပ် ပြန်လည်တင်ပြခြင်း

ရည် ညွှန်း ချက်။ (၁) စွမ်းအင်ဝန်ကြီးဌာန၏ (၁၈-၂-၂၀၁၆) ရက်စွဲပါစာအမှတ် စီမံ-စာရင်း/၃/ ၀၃(၁၇၁)၂၀၁၆

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃-၃-၂၀၁၆) ရက်စွဲပါစာအမှတ် ရက-၅(စ)/ ၀၁၅/၂၀၁၆(၁၁၅)

၁။ စွမ်းအင်ဝန်ကြီးဌာန၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Guangdong Zhenrong Energy Co.,Ltd.၊ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်နှင့် Yangon Engineering Group Co.,Ltd., တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Longwin Global Petrochemical Co.,Ltd., တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ် တွင် တစ်နှစ်လျှင်မက်ထရစ်တန်ချိန် ၅ သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံနှင့် ရေနံတင်/ချဆိပ်ကမ်းတည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လုပ်ကိုင်ခွင့်ပြုပါရန် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုတင်ပြခဲ့ပါသည်။

၂။ စီမံကိန်းတွင်ပါဝင်မည့် ရေနံချက်စက်ရုံ၏ ပင်မအဆောက်အဦများ၊ Waste Water Treatment Plant, Warehouse များနှင့် Tank Farm တို့ကို ဧရိယာတစ်ခုတည်းအတွင်းပေါ်တွင် စုစည်းပြီးတည်ဆောက်နိုင်ရန်အတွက် Design ရေးဆွဲခဲ့ပါသည်။ ထိုကဲ့သို့ Design ရေးဆွဲခဲ့မှုအရ လောင်းလုံးမြို့မှ ကျောက်နီမော်သို့ ဆက်သွယ်ထားသည့်ကားလမ်း၏ ၁. ၃ မိုင်ခန့် ရှည်လျားသည့်လမ်းအပိုင်းသည် စက်ရုံဧရိယာအတွင်းတွင် ကျရောက်မည်ဖြစ်ပါသဖြင့် စက်ရုံဧရိယာ၏ အနားသတ်လိုင်း တစ်လျှောက်တွင် လမ်းလွှဲဖောက်လုပ်ရန်အတွက်လည်း စီစဉ်ခဲ့ပါသည်။

၃။ လမ်းလွှဲမည့်အပိုင်းနှင့် လမ်းဖောက်လုပ်မှုအပိုင်းဆိုင်ရာအချက်အလက်များ၊ ဖောက်လုပ်မည့်လမ်းအမျိုးအစားနှင့် လမ်းအကျယ်၊ အရှည်နှင့် အသေးစိတ်ဆောင်ရွက်မည့် လမ်းတည်ဆောက်မှုဆိုင်ရာလုပ်ငန်းစဉ်များကို ခွင့်ပြုနိုင်မှုရှိ/မရှိ သုံးသပ်စစ်ဆေးနိုင်ရန်အတွက် ရည်ညွှန်း(၂)ပါစာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် ဝန်ကြီးရုံး၊ ဆောက်လုပ်ရေး ဝန်ကြီးဌာနသို့ ပေးပို့ခဲ့ပါသည်။

၄။ လမ်းလွှဲဖောက်မည့်ကိစ္စရပ်အတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ GDZR နှင့် Yangon Engineering Group Co.,Ltd., တို့မှ တာဝန်ရှိသူများသည် (၈-၃-၂၀၁၆) ရက်နေ့တွင် အမြဲတမ်းအတွင်းဝန်(ဆောက်လုပ်ရေးဝန်ကြီးဌာန)ထံ သွားရောက်တွေ့ဆုံပြီး ညှိနှိုင်းဆွေးနွေးခဲ့ကြပါသည်။ ထိုသို့တွေ့ဆုံစဉ် အမြဲတမ်းအတွင်းဝန်က ဒေသခံများ နေ့စဉ်အသုံးပြု

နေသည့် ကားလမ်းအပိုင်းကို စက်ရုံဧရိယာအတွင်းသို့ ထည့်သွင်းခြင်းမပြုဘဲ ထိုလမ်း၏ တစ်ဖက်တစ်ချက်စီတွင် စက်ရုံနှင့်ဆက်စပ်အဆောက်အဦများကို ဆောက်လုပ်သင့်ကြောင်း၊ လမ်း၏အပေါ်ဘက်မှ Overhead Pipe Line များ ဆက်သွယ်ခြင်းနှင့် လမ်း၏အောက်ဖက်မှ Underground Pipe Line များ ဆက်သွယ်ခြင်းကိုမူ ခွင့်ပြုနိုင်မည်ဖြစ်ကြောင်းဖြင့် အကြံပြုဆွေးနွေးခဲ့ပါသည်။

၅။ ၎င်း၏အကြံပြုချက်အရ ကားလမ်း၏အရှေ့ဘက်အခြမ်း၌ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှပိုင်ဆိုင်သည့် ဆီအုန်းခြံအမှတ်(၅)အတွင်းတွင် ရေနံချက်စက်ရုံ၏ ပင်မအဆောက်အဦများနှင့် Tank Farm အချို့ကိုတည်ဆောက်ရန်နှင့်၊ ကားလမ်း၏အနောက်ဘက်အခြမ်း၌ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှပိုင်ဆိုင်သည့် ဆီအုန်းခြံအမှတ်(၄)အတွင်းတွင် Waste Water Treatment Plant, Warehouse များနှင့် Tank Farm အချို့ကို တည်ဆောက်ရန် Design အသစ် ထပ်မံရေးဆွဲခဲ့ပါသည်။

၆။ ထိုကဲ့သို့ Design အသစ်ထပ်မံရေးဆွဲမှုအရ လောင်းလုံး-ကျောက်နီမော်ကားလမ်း၏ ၁. ၃ မိုင်ခန့်ရှည်သော လမ်းအပိုင်းကို စီမံကိန်းတည်ဆောက်မှုအတွက် တောင်းခံမည့်အစီအစဉ်နှင့် လမ်းလွှဲဖောက်မည့်အစီအစဉ်တို့ကို ပယ်ဖျက်ပါကြောင်း ပြင်ဆင်တည်ဆောက်မည့် စက်ရုံဧရိယာDesign အသစ်ဖြင့် ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲပါ- (က) တစ်နှစ်လျှင်ရေနံစိမ်းတန်ချိန် ၅ သန်း ချက်လုပ်နိုင်မည့် ရေနံချက်စက်ရုံ စီမံကိန်းတည်နေရာနှင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဝယ်ယူထားသည့် ဆီအုန်းခြံများ၏ တည်နေရာပြမြေပုံ (၁)ရွက်

(ခ) ရေနံချက်စက်ရုံ၏ ပင်မအဆောက်အဦနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်မည့်ဧရိယာပြမြေပုံ (၁) ရွက်

၁၅/၁၂/၁၅

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)

ဦးသန်းထွန်း၊ ဌာနကြီးမှူး

မိတ္တူကို

ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန

ရုံးလက်ခံ

## တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန် ၅ သန်း ချက်လုပ်နိုင်မည့် ရေနံချက်စက်ရုံစီမံကိန်း တည်နေရာနှင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဝယ်ယူထားသည့် ဆီအုန်းခြံများ၏ တည်နေရာပြမြေပုံ

| | |
|---|---|
| ခြံအမှတ် (၁) | ၁၇၃.၀၇ ဧက |
| ခြံအမှတ် (၂) | ၂၂၆.၀၀ ဧက |
| ခြံအမှတ် (၃) | ၁၃၀.၀၀ ဧက |
| ခြံအမှတ် (၄) | ၁၂၀.၀၀ ဧက |
| ခြံအမှတ် (၅) | ၂၈၃.၀၀ ဧက |
| ခြံအမှတ် (၆) | ၁၈၃.၀၀ ဧက |
| ခြံအမှတ် (၇) | ၇၇.၀၀ ဧက |
| ခြံအမှတ် (၈) | ၁၃၄.၀၀ ဧက |
| ခြံအမှတ် (၉) | ၃၁၀.၀၇ ဧက |
| စုစုပေါင်း | ၁၆၃၆.၁၄ ဧက |




ခြံအမှတ် (၁) - အုပ်ချုပ်မှုအဆောက်အဦများ တည်ဆောက်မည့်ဧရိယာ
ခြံအမှတ် (၂) - ပြောင်းရွှေ့မည့်အိမ်များကို ပြန်လည်နေရာချထားမည့် ဧရိယာ
ခြံအမှတ် (၃) - စက်ရုံဝန်ထမ်းများအတွက် အိမ်ယာတည်ဆောက်မည့် ဧရိယာ

ပင်မအဆောက်အဦနှင့် Tank Farm တည်ဆောက်မည့် ကားလမ်းအရှေ့ဘက်ခြံမြေ ဧရိယာ

Waste Water Treatment Plant ,Warehouse နှင့် Tank Farm တည်ဆောက်မည့်ကားလမ်းအနောက်ဘက်ခြံမြေ ဧရိယာ

# ရေနံချက်စက်ရုံစီမံကိန်း

## ပင်မအဆောက်အဦနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်မည့်ဧရိယာပြမြေပုံ



ကုမ္ပဏီအမည် - Longwin Global Petrochemical Co., Ltd.

လုပ်ငန်း - တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့်ထွက်ရှိမည့် ရေနံချက် စက်ရုံနှင့်ရေနံ တင်/ချ ဆိပ်ကမ်း တည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၈-၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၂-၂၀၁၆ | ၂၆-၂-၂၀၁၆ | ၉ ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃- ၄-၂၀၁၅ | EIA Report ပေးပို့ထားပြီးဖြစ်ပါသည်။ | |
| | (ဂ) ပို့ဆောင်ရေးဝန်ကြီးဌာန | ၁၉-၂-၂၀၁၆ | ၁-၃-၂၀၁၆ | ၁၁ ရက် |
| | (ဃ) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း | ၃-၃-၂၀၁၆ | ၁၀-၃-၂၀၁၆ | ၈ ရက် |
| | (င) ရေကြောင်းပို့ဆောင်ရေး ညွှန်ကြားမှု ဦးစီးဌာန | ၃-၃-၂၀၁၆ | ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ | |
| | (စ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၃-၃-၂၀၁၆ | လမ်းတိုးချဲ့မှုမပြုတော့ဘဲ လမ်းလွှဲဖောက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ | |
| ၃ | PAT (၉/၂၀၁၆) သို့ တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၄ | ကုမ္ပဏီမှ PAT အစည်းအဝေးဆုံးဖြတ်ချက် နှင့် အညီ တင်ပြလာခြင်း | ၁၆-၂-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း | ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြထားပါသည်။ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၁၆-၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၃၀ ရက် | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Longwin Global Petrochemical Co., Ltd.မှ တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်း ခန့်ထွက်ရှိမည့်ရေနံချက်စက်ရုံနှင့် ရေနံ တင်/ချ ဆိပ်ကမ်းတည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Longwin Global Petrochemical Co., Ltd.<br>အမြဲတမ်းအတွင်းဝန်၊ စွမ်းအင်ဝန်ကြီးဌာန |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>-စွမ်းအင်ဝန်ကြီးဌာန ၃.၅%<br>-Guangdong Zhenrong Energy Co., Ltd.<br>(တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၇၀.၀%<br>-မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်<br>(မြန်မာနိုင်ငံ) ၂၀.၀%<br>- Yangon Engineering Group Co., Ltd.<br>(မြန်မာနိုင်ငံ) ၆.၅% |
| | လုပ်ငန်းအမျိုးအစား | - တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံနှင့် ရေနံတင်/ချဆိပ်ကမ်း တည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချ ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်ခရိုင်၊ လောင်းလုံမြို့ |
| | မြေပိုင်ရှင် | - မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| | မြေအကျယ်အဝန်း | - မြေ ၇၃၃.၃ ဧက (၂,၉၆၇,၅၆၂.၄၃၈ စတုရန်းမီတာ) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် နှစ် ကြိမ်) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၁.၄၈ သန်း (တစ်နှစ် ၁ စတုရန်းမီတာလျှင် US$ ၀.၅ နှုန်း)<br>- မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် မှ ရှယ်ယာအဖြစ် ထည့်ဝင်ထားပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂,၆၀၂.၅၇ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | US $ (သန်း) |
| | ငွေသား | ၃၁၆.၁၇ |
| | စက်ပစ္စည်း (ပြည်ပဝယ်) | ၄၃၆.၀၉ |
| | (ပြည်တွင်းဝယ်) | |
| | Raw Material (ပြည်ပဝယ်) | ၃၄၀.၃၉ |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | |
| | အဆောက်အဦ ကုန်ကျစရိတ် | ၁,၀၂၁.၁၁ |
| | Value of Technical Know-how | ၇.၃ |
| | Construction Period Interest | ၁၇၆.၁၅ |
| | others | ၃၀၅.၃၆ |
| | **စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ** | **၂,၆၀၂.၅၇** |
| ၆။ | ဝန်ထမ်းအင်အား | - ၉၀၀ ဦး |
| | ပြည်တွင်း | - ၆၈၄ဦး (အနိမ့်ဆုံးလစာမှာ US$ ၁၆၇ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၂၅၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂၁၆ဦး (အနိမ့်ဆုံးလစာမှာ US$ ၄၁၇ နှင့် အမြင့်ဆုံးလစာမှာ US$ ၆,၆၆၇ ဖြစ်ပါသည်။) |
| ၇။ | ထုတ်လုပ်မှုနှင့်ရောင်းချမည့်ဈေးနှုန်း | |

| Product | Production output (10k ton/yr) | Ex-refinery Price (USD/ton) | Value of Product (10k USD) |
|---|---|---|---|
| Euro IV Gasoline | ၁၄၀.၄ | - | ၁၃၆,၇၉၀ |
| 89# gasoline | ၇၃.၉၅ | ၉၂၄.၂၀ | ၇၅,၀၇၄ |
| 92# gasoline | ၉၃.၄၅ | ၉၇၈.၄၄ | ၉၀,၄၇၅ |
| 95# gasoline | ၁၀ | ၁,၀၂၈.၁၆ | ၁၀,၂၈၂ |
| Aviation kerosene | ၃၉.၃၉ | ၁,၀၀၂.၉၂ | ၃၉,၅၀၅ |
| Euro IV diesel | ၁၄၆.၂၆ | ၉၆၂.၈၅ | ၁၄၀,၈၂၇ |
| LPG | ၂၅.၆၈ | ၈၅၂.၆၄ | ၂၁,၈၉၆ |
| Propane | ၁.၄၉ | ၇၈၂.၃၄ | ၁,၁၆၆ |
| Propylene (for export) | ၇.၉၃ | ၁,၄၇၈.၇၁ | ၁၁,၇၂၆ |
| Asphalt | ၂၀ | ၅၄၅.၀၈ | ၁၀,၉၀၂ |
| Asphalt (for export) | ၂၀ | ၄၈၃.၇၇ | ၉,၆၇၅ |
| Sulfur (for export) | ၃.၆၂ | ၂၂၇.၈၂ | ၈၂၅ |
| Fuel oil (for export) | ၅၇.၇၃ | ၅၇၇.၅၈ | ၃၀,၈၂၀ |

| | | |
|---|---|---|
| ၈။ | ဝင်ငွေ (ဆဌမနှစ် ) | - US $ ၄,၀၄၁.၃၂ သန်း |
| | အသုံးစရိတ် (ဆဌမနှစ် ) | - US $ ၃,၉၁၇.၇၃ သန်း |
| | အသားတင်အမြတ် (ဆဌမနှစ်) | - US $ ၁၂၃.၅၉ သန်း |
| | အရင်းကြေကာလ | - ၉ နှစ် ၇ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၁.၃၅ % |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | - US $ ၄၁.၂၁ သန်း |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၄၃၄,၈၆၀,၀၀၀ kWh (self-produced) |
| | ရေသုံးစွဲမှု (နှစ်စဉ်) | - ၃,၈၈၀,၀၀၀ ကုဗမီတာ |
| | လောင်စာဆီ (နှစ်စဉ်) | - FCC slurry and residual oil ၁၇၂,၃၀၀ တန်နှင့် Fuel Gas ၁၀၀,၉၀၀ တန် (Self-produced) |
| ၁၁။ | CSR | - နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဟုတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Longwin Global Petrochemical Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်း ခန့်ထွက်ရှိမည့်ရေနံချက်စက်ရုံနှင့် ရေနံတင်/ချ ဆိပ်ကမ်းတည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်ခရိုင်၊ လောင်းလုံမြို့ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၂,၆၀၂.၅၇ သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | (၅၀) နှစ် |
| အရင်းကြေကာလ | - | ၉ နှစ် ၇ လ |
| IRR | - | ၁၁.၃၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | ကျပ် ၂၇,၉၅၃.၂၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၄၆,၉၀၄.၀၀ သန်း | ကျပ် ၂၈၉,၄၂၈.၀၀ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၈၆၄,၀၀၀.၀၀ သန်း |
| ၆ | လောင်စာသုံးစွဲခ | | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် ၂ သန်း (ကျပ်နှစ်သန်း) ကျော် ပါက အခွန်ပေးရမည့် ဝန်ထမ်း (၂၀၅) ဦး |
| ၈ | CSR (၂%) | | ကျပ် ၂၉,၁၂၄.၀၀ သန်း |
| ၉ | မြေငှားရမ်းခ,ရငွေ | | ကျပ် ၈,၈၈၀.၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | အမြဲတမ်း<br>ပြည်တွင်း ၆၈၄ ဦး<br>ပြည်ပ ၂၁၆ ဦး |
| ၁၁ | | | ပြည်တွင်းလုပ်သား(၆၈၄)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက် အကူပြုစေပါသည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမို ရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၁၇၄,၈၆၀.၂၈ သန်း** | **ကျပ် ၁,၁၉၁,၄၃၃.၂ သန်း** |
| | | | **၁ : ၆.၈၁** |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(အ)/ ၀၁၅/၂၀၁၆ ( ၁၉၄ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Longwin Global Petrochemical Co., Ltd. မှ တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံနှင့် ရေနံတင်/ချ ဆိပ်ကမ်းတည် ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ စွမ်းအင်ဝန်ကြီးဌာနမှ ၃.၅%၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Guangdong Zhenrong Energy Co., Ltd. မှ ၇၀% ၊ မြန်မာနိုင်ငံမှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် ၂၀% နှင့် Yangon Engineering Group Co., Ltd. မှ ၆.၅% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Longwin Global Petrochemical Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့ရှိ မြေ ၇၃၃.၃ ဧက (၂,၉၆၇,၅၆၂.၄၃၈ စတုရန်းမီတာ)တွင် တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်း ခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံနှင့် ရေနံတင်/ချ ဆိပ်ကမ်း တည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူအမြဲတမ်းအတွင်းဝန်၊ စွမ်းအင်ဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလ ၃ နှစ်ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ နှစ် ၅၀ (၁၀နှစ် ၂ ကြိမ်)ဖြစ်ပြီး မြေငှားရမ်းသည့်ဧရိယာမှာ စုစုပေါင်း ၇၃၃.၃ ဧက ဖြစ်ပြီး တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၀.၅ နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။ တစ်နှစ်မြေငှားရမ်းခငွေမှာ စုစုပေါင်း US$ ၁.၄၈ သန်း ဖြစ်ပါသည်။

၄။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Longwin Global Petrochemical Co., Ltd. တို့အကြား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် မြေငှားစာချုပ်(မူကြမ်း)နှင့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)တို့ကို ပူးတွဲတင်ပြထားပါသည်။ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) Article 6 အပိုဒ် 6.2.1 တွင် ဒါရိုက်တာဖွဲ့စည်းခြင်းဖြင့် အဖွဲ့ဝင်အားလုံးမှာ ၃ နှစ် သက်တမ်းအဖြစ် တာဝန်ထမ်းဆောင်ရမည်ဖြစ်ပြီး စွမ်းအင်ဝန်ကြီးဌာနမှ ဒါရိုက်တာ ၁ ဦး၊ GDZR Co., Ltd. မှ ဒါရိုက်တာ ၃ ဦး နှင့် Yangon Engineering Group မှ ဒါရိုက်တာ ၁ ဦး၊ MEHL မှ ဒါရိုက်တာ ၂ ဦး၊ စုစုပေါင်း ၇ ဦး ဖြစ် ကြောင်းတွေ့ရှိရပါသည်။

(ခ) Article 6 အပိုဒ် 6.2.4 တွင် Chairman အဖြစ် GDZR နှင့် MEHL မှ တစ်လှည့်စီ တာဝန်ထမ်းဆောင်ရမည်ဖြစ်ပြီး Managing Director အဖြစ် GDZR မှ ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် တာဝန်ထမ်းဆောင်ရမည် ဖြစ်သည်။ Deputy Managing Director အဖြစ် MEHL မှ တာဝန်ထမ်းဆောင်ရမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ဂ) Article 6 အပိုဒ် 6.2.6 တွင် Political & Social Issue Energy Safety & Security ပိုင်းဆိုင်ရာ မူဝါဒပိုင်းတွင် Veto အာဏာကို စွမ်းအင်ဝန်ကြီးဌာနမှ သုံးစွဲမည်ဖြစ်ကြောင်းတွေ့ရှိရပါသည်။

(ဃ) Article 12 Sales of Products အခန်း အပိုဒ် 12.3.1 တွင် ရေနံထွက်ပစ္စည်းနှင့် Semi-Manufactured Products များအား နိုင်ငံတကာဈေးကွက်များတွင် တင်ပို့ရောင်းချရမည်ဟုပါရှိပြီး အပိုဒ် 12.3.2 တွင် ပြည်တွင်းဈေးကွက်တွင် ရောင်းချဖြန့်ချိခွင့်မရှိဟုပါရှိပါသည်။ အပိုဒ် 12.3.3 တွင် စွမ်းအင်ဝန်ကြီးဌာနမှ ခေါ်ယူသော လေလံဝင်ရောက်ယှဉ်ပြိုင်ပြီးမှသာ ရောင်းချခွင့်ရှိကြောင်း တွေ့ရှိရပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂,၆၀၂.၅၇ သန်းဖြစ်ပြီး ထည့်ဝင်မှုများမှာ တစ်ဘက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်း US$ (သန်း) |
|---|---|
| ငွေသား | ၃၁၆.၁၇ |
| စက်ပစ္စည်း (ပြည်ပဝယ်) | ၄၃၆.၀၉ |
| Raw Material (ပြည်ပဝယ်) | ၃၄၀.၃၉ |
| အဆောက်အဦ ကုန်ကျစရိတ် | ၁,၀၂၀.၁၁ |
| Value of Technical Know-how | ၇.၃၀ |
| Construction Period Interest | ၁၇၆.၁၅ |
| others | ၃၀၅.၃၆ |
| **စုစုပေါင်း** | **၂,၆၀၂.၅၇** |

၆။ လုပ်ငန်းဆောင်ရွက်ရန် အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၆၈၄ ဦး နှင့် ပြည်ပဝန်ထမ်း ၂၁၆ ဦး၊ စုစုပေါင်း ၉၀၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၆၇ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁,၂၅၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၄၁၇ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၆၆၇ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် ရေနံထွက်ပစ္စည်းများမှာ ပြည်ပသို့ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်) တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအမည် | Production output (10k ton/yr) | Ex-refinery Price (USD/ton) | Value of Product (10k USD) |
|---|---|---|---|
| Euro IV Gasoline | ၁၄၀.၄၀ | - | ၁၃၆,၇၉၀ |
| 89# gasoline | ၃၇.၉၅ | ၉၂၄.၂၀ | ၃၅,၀၇၄ |
| 92# gasoline | ၉၃.၄၅ | ၉၇၈.၄၄ | ၉၀,၄၃၅ |
| 95# gasoline | ၁၀.၀၀ | ၁,၀၂၈.၁၆ | ၁၀,၂၈၂ |
| Aviation kerosene | ၃၉.၃၉ | ၁,၀၀၂.၉၂ | ၃၉,၅၀၅ |
| Euro IV diesel | ၁၄၆.၂၆ | ၉၆၂.၈၅ | ၁၄၀,၈၂၇ |
| LPG | ၂၅.၆၈ | ၈၅၂.၆၄ | ၂၁,၈၉၆ |
| Propane | ၁.၄၉ | ၇၈၂.၃၄ | ၁,၁၆၆ |
| Propylene(for export) | ၇.၉၃ | ၁,၄၇၈.၇၁ | ၁၁,၇၂၆ |
| Asphalt | ၂၀.၀၀ | ၅၄၅.၀၈ | ၁၀,၉၀၂ |
| Asphalt(for export) | ၂၀.၀၀ | ၄၈၃.၇၇ | ၉,၆၇၅ |
| Sulfur (for export) | ၃.၆၂ | ၂၂၇.၈၂ | ၈၂၅ |
| Fuel oil (for export) | ၅၇.၃၃ | ၅၃၇.၅၈ | ၃၀,၈၂၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄,၀၄၁.၃၂ |
| (ခ) | အသုံးစရိတ် | ၃,၉၁၇.၇၃ |
| (ဂ) | အသားတင်အမြတ် | ၁၂၃.၅၉ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၄၁.၂၀ သန်းနှင့် ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၉ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၁.၃၅ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ မြို့နယ် ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံအများစုက လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင်ဆိုင်သော ဆီအုန်းခြံ (၉)ခြံ၊ မြေဧရိယာ (၁၆၃၆.၁၄) ဧကအတွင်း ပါဝင်ပြီး ရေနံချက်စက်ရုံ စီမံကိန်းအတွက် မြေဧရိယာ (၃၃၃)ဧကသာ အသုံးပြုမည်ဖြစ်ကြောင်း၊ စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ခြင်းအားဖြင့် ဒေသ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်လာမည် ဖြစ်ခြင်း၊ အလုပ်လက်မဲ့များ လျော့ကျလာမည်ဖြစ်ခြင်း၊ ဒေသ၏ ဂျီဒီပီတိုးတက်မြင့်မား လာစေပြီး ဒေသခံများ၏ လူနေမှုဘဝမြင့်မားတိုးတက်လာမည် ဖြစ်ခြင်း၊ လောင်စာဆီဈေးနှုန်းများ လျော့ကျလာပြီး အသေးစားနှင့် အလတ်စား စက်မှုလုပ်ငန်းများ တိုးတက်ဖြစ်ထွန်းလာမည် ဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိကြောင်း ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက်တွင် ကျင်းပခဲ့သော တနင်္သာရီတိုင်း

ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး (၄/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် (၂၇) အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** သို့ ကုမ္ပဏီမှ တင်ပြလာသော EIA, SIA, HIA, ERP, EMPအစီရင်ခံစာများကို Resource & Environment Management Ltd.မှ တစ်ဆင့် တင်ပြလာပါသဖြင့် ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၃ ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(စ)/ န-ထွေ/ ၂၀၁၅ (၁၀၆)ဖြင့် ပေးပို့ခဲ့ပြီးဖြစ်ပါသည်။

(ဂ) **ပို့ဆောင်ရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(၁) မြန်မာနိုင်ငံသည် အပြည်ပြည်ဆိုင်ရာ ရေကြောင်းအဖွဲ့ချုပ်၏ အဖွဲ့ဝင်နိုင်ငံ တစ်ခုဖြစ်သည့်အားလျော်စွာ အပြည်ပြည်ဆိုင်ရာ ရေကြောင်းအဖွဲ့ချုပ် (IMO) ၏ International Ship and Port Facility Security Code-ISPS Code ပါ လိုအပ်ချက်များအတိုင်း အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်း များတွင် ဖြည့်ဆည်း ဆောင်ရွက်ထားရန် လိုအပ်မည် ဖြစ်ပါကြောင်း၊ လုံခြုံ ရေးအရာရှိနှင့် ဝန်ထမ်းများအတွက် ISPS Code ပါ လိုအပ်ချက်များအတိုင်း လေ့ကျင့်သင်ကြားပေးမှုနှင့် ကိုင်ဆောင်ရမည့် လက်မှတ်များ ကိုင်ဆောင်ထား ရှိရန်လည်းလိုအပ်ပါကြောင်း၊ ISPS Codeနှင့် ပြည့်စုံသော Port Security Plan ရေးဆွဲ၍ Planပါ အချက်များ ပြည့်စုံအောင် ဆောင်ရွက်ထားမှသာလျှင် "Compliance Certificate" အား ထုတ်ပေးနိုင်မည်ဖြစ်ပါကြောင်း၊

(၂) ဆိပ်ခံတံတားလုပ်ငန်းဆိုင်ရာ တင်ပြချက်တွင် DWT တန်ချိန် (၁၅၀,၀၀၀) ရှိသော ရေနံစိမ်း(Crude Oil)တင်သင်္ဘောကြီးများနှင့် DWT (၃၀,၀၀၀), (၂၀,၀၀၀) ရှိသော ရေနံကုန်ချောတင်ဆောင်မည့်သင်္ဘောများဝင်ရောက် ဆိုက်ကပ် အသုံးပြုမည်ဟု ဖော်ပြထားသည့်အတွက် ဆီယိုဖိတ်မှုမတော်တဆဖြစ်မှုများ ဖြစ်ပွားလာပါက အရေးပေါ်အစီအစဉ်များ ချမှတ်အကောင်အထည်ဖော်နိုင်မည့် Oil Spill Contingency Plan အား ရေးဆွဲတင်ပြရန်နှင့် ဆိပ်ကမ်းအတွင်း ဆီယိုဖိတ်မှု ဖြစ်စဉ်ဖြစ်လာပါက အရေးပေါ် ဆောင်ရွက်နိုင်ရန် Oil

Booms များ Skimmer စက်များ Operate လုပ်နိုင်မည့် ပညာရှင်အပါအဝင် လူအင်အားနှင့် ပစ္စည်းများ အား Handle လုပ်နိုင်မည့် ပညာရှင် အပါအဝင် လူအင်အားနှင့် ပစ္စည်းများအား Handle လုပ်နိုင်မည့် Tug Boat များပါ ဖြည့်ဆည်းထားရန် လိုအပ်ပါကြောင်း၊

(၃) မြန်မာနိုင်ငံသည် MARPOL Annex I,II ကိုသာ လက်မှတ်ရေးထိုးထားပြီး ကျင့်သုံးနေသော်လည်း ယခုကဲ့သို့ ရေနံ တင်/ချ ဆိပ်ကမ်းကြီးများ ပေါ်ပေါက်လာပါက လိုအပ်သော OPRC Convention, CLC Convention, Bunker Convention, Fund Convention များကိုလည်း အမြန်ရေးထိုးနိုင်ရေး ဆောင်ရွက်လျက်ရှိရာ ထုတ်ပြန်လာမည့် ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများကိုလည်း လိုက်နာရန်နှင့် လိုအပ်ချက်များ ဖြည့်ဆည်းပေးရန် တာဝန်ရှိကြောင်းလည်း ကြိုတင် သိရှိထားရန် လိုအပ်ပါကြောင်း၊

(၄) မြန်မာနိုင်ငံအနေဖြင့် Fund Conventionအား အတည်ပြု လက်မှတ်ရေးထိုးပြီးချိန်တွင် ဆီမတော်တဆယိုဖိတ်မှုကိစ္စများအတွက် ဆီလက်ခံသည့်နိုင်ငံမှ ရန်ပုံငွေထည့်ဝင်ခြင်းကို ဆောင်ရွက်ရမည်ဖြစ်ရာ အဆိုပါ ကိစ္စအတွက် ကြိုတင်ပြင်ဆင် စီစဉ်ထားသင့်ပါကြောင်း၊

(၅) ဆိပ်ကမ်းတည်ဆောက်မှု နှင့် သင်္ဘောကြီးများ ဝင်/ထွက်မှုအတွက် ဖြစ်ပေါ်လာမည့် ဒေသခံ ငါးဖမ်းလုပ်သားများ၏ နစ်နာမှုဖြစ်ပေါ်လာပါက ကြိုတင်ပညာပေး ညှိနှိုင်းထားရန်လည်း လိုအပ်ပါကြောင်း၊

(၆) Longwin Global Petrochemical Co., Ltd. မှ ရေနံတင်ဆိပ်ကမ်း တည်ဆောက်ရန်အတွက် ပုံစံဒီဇိုင်းများ ရေးဆွဲတင်ပြထားရာတွင် Crude Oil Jetty အား ပင်လယ်ပြင်ဘက်သို့ 1800 m ခန့် (ရေအနက်- 18.7 m)၊ Breakwater အား 1452 m (ရေအနက်-14 m) ခန့်တွင် တည်ဆောက်မည်ဖြစ်ရာ ဌင်းနေရာဝန်းကျင် ရေ ဒေသအား အသုံးပြုနေသော အဖွဲ့အစည်းများနှင့် ပုဂ္ဂလိကရေယာဉ်ပိုင်ရှင်များ အနေဖြင့်ရေကြောင်းသွားလာရေးအတွက် လွတ်ကင်းမှု ရှိ/မရှိနှင့် ပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိ ညှိနှိုင်းသင့်ပါကြောင်း၊

(၇) အဆိုပါ ရေနံတင်ဆိပ်ကမ်းတည်ဆောက်ခြင်း ကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် တောင်းခံရန် လိုအပ်မည် ဖြစ်ပြီး ထားဝယ်ရေနက်ဆိပ်ကမ်းဆောက်လုပ်ပြီးပါက ၎င်းဆိပ်ကမ်းသို့ Crude Oil နှင့် LNG ရေယာဉ်ကြီးများ ဝင်ထွက်ရန် ရှိ- မရှိ၊ ရှိပါက လုပ်ငန်းသဘာဝတူမျိုး ဖြစ်နေနိုင်သဖြင့် ထားဝယ်အထူးစီးပွားရေးဇုန် စီမံခန့်ခွဲမှုကော်မတီသို့ပါ သဘောထားမှတ်ချက် တောင်းခံသင့်ပါကြောင်း၊

(၈) အဆိုပါ Crude Oil Jetty တွင် ဆိုက်ကပ်မည့် ရေယာဉ်များမှာ အပြည်ပြည်ဆိုင်ရာရေယာဉ်များဖြစ်သဖြင့် ဆောက်လုပ်မည့် ဆိပ်ကမ်းတံတားပုံစံကိစ္စ၊ အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းသတ်မှတ်ရန်ကိစ္စ၊ ဆိပ်ကမ်းအခွန်အခနှင့် Royalty Fees ကိစ္စ၊ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့် လိုင်စင်ကိစ္စ စသည်တို့နှင့်ပတ်သက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် အသေးစိတ် ညှိနှိုင်းရန် လိုအပ်မည်ဖြစ်သည့်အပြင် ဆောက်လုပ်ပြီးစီးပါကလည်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေကို လိုက်နာရန် လိုအပ်မည် ဖြစ်ပါကြောင်းသဘောထား ပြန်ကြားလာရာကုမ္ပဏီမှ ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာမည်ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်နေ့ ရက်စွဲပါစာဖြင့် ဝန်ခံကတိပြုတင်ပြထားပါသည်။ **နောက်ဆက်တွဲ -ခ**

(ဃ) **မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်းမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(၁) အီရန်နိုင်ငံမှ ရေနံစိမ်းအား တင်သွင်းချက်လုပ်မည်ဖြစ်ပြီး အပေါ့စားနှင့်အလေးစား (Light and Heavy Crude Oil) ၂ မျိုးကို ၃း၂ ဖြင့် ရောစပ်၍ ချက်လုပ်ရန် ဒီဇိုင်းပြုလုပ်ထားပါသည်။ ရေနံစိမ်း Specification တွင် ဆာလဖာပါဝင်မှုမှာ 1.52-1.72 wt အထိ ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ Sour Crude ဖြစ်သော်လည်း Sulfur Recovery Unit ထည့်သွင်း တည်ဆောက်ထားပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆာလ်ဖာကို By Product အဖြစ် ထုတ်လုပ်ထားသဖြင့် ပြည်တွင်းဆာလ်ဖာ လိုအပ်ချက်ကိုလည်း ဖြည့်ဆည်းပေးနိုင်ကြောင်း ။

(၂) တစ်နေ့လျှင် ရေနံစိမ်း စည် ၁၀၀,၀၀၀ ခန့် ချက်လုပ်နိုင်သည့် စက်ရုံဖြစ်ခြင်းကြောင့် စီပွားရေးတွက်ခြေကိုက် အရွယ်အစားရှိသည့် စက်ရုံဖြစ်ကြောင်း။

(၃) အဆိုပါစက်ရုံတွင် Plant/ Unit စုစုပေါင်း (၉)ခု ပါဝင်ပြီး အဓိက ထုတ်ကုန်များအဖြစ် အောက်တိန်းအမှတ်မြင့် ဓါတ်ဆီ (RON 89, 92, 95)၊ လေယာဉ်ဆီ၊ အဆင့်မြင့် ဒီဇယ်ဆီ၊ ရေနံဓါတ်ငွေ့ရည်၊ Fuel Oil၊ ဆာလ်ဖာနှင့် လမ်းခင်းကတ္တရာတို့ကို ထုတ်လုပ်မည်ဖြစ်ကြောင်း။

(၄) ဓါတ်ဆီနှင့် ဒီဇယ်ဆီတို့၏ Specification များမှာ Euro IV Standard များဖြစ်ပြီး Product များဖြစ်သည့် လေယာဉ်ဆီနှင့် ရေနံဓါတ်ငွေ့ရည်တို့၏ Specification များမှာ MPE Specification များနှင့် နီးစပ်ကိုက်ညီမှုရှိကြောင်း။

(၅) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ ရေနံချက်စက်ရုံများတွင် MTBE သုံးစွဲ ထုတ်လုပ်မှုအား ပိတ်ပင် တားမြစ်ထားပါသည်။ အဆိုပါရေနံချက်စက်ရုံတွင် သဘာဝ ပတ်ဝန်းကျင်နှင့် ကျန်းမာရေးကို ထိခိုက်ပျက်စီးနိုင်သည့် အောက်တိန်းအမှတ်မြင့်ဓါတ်ဆီ ထုတ်လုပ်ရာတွင် သုံးစွဲသည့် MTBE Unit အား တည်ဆောက်တပ်ဆင်ထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ အောက်တိန်းအမှတ်မြင့်ဓာတ်ဆီထုတ်လုပ်ရေးအတွက် Fluidized Catalytic Cracking (FCC) Plant နှင့် Isomerization unit တို့ကို တပ်ဆင်အသုံးပြုထားကြောင်း စိစစ်တွေ့ရှိရပါသည်။

(၆) ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစဉ်များအနေဖြင့် ရေဆိုးသန့်စင်ရေးစက်ရုံနှင့် လေထုညစ်ညမ်းမှုလျှော့ချရေးအတွက် ဆောင်ရွက်မည့် နည်းစဉ်များ၊ Solid Waste ဖြစ်သည့် Spent Catalyst များအား Manufacture Recovery ပြုလုပ်ခြင်းနှင့် စနစ်တကျ စွန့်ပစ်မည့်အစီအမံများ ပါဝင်ကြောင်း၊ Chinese Standardများနှင့်အညီ စွန့်ပစ်မည့် Waste Emission စံချိန်စံညွှန်းများကို တင်ပြထားကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ National Environmental Quality

(Emission) Guideline အား ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်ထားပြီးဖြစ်သဖြင့်အဆိုပါ စံချိန်စံညွှန်းများအတိုင်း လိုက်နာဆောင် ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ် နှင့် လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေး(Firefighting and HSE) တို့အတွက် Chinese Standard များနှင့် အညီဆောင်ရွက်မည်ဖြစ်ကြောင်း။

(၇) အဆိုပြုလွှာပါ နည်းပညာဆိုင်ရာ အချက်အလက်များသည် အခြေခံရေနံချက်လုပ်မှုနည်းစဉ် (Conceptual Refining Technology) များ ဖြစ်သဖြင့် Detail Engineering Design ရေးဆွဲပြီးပါက နည်းပညာပိုင်းဆိုင်ရာ အချက်အလက်များကို ကျွမ်းကျင်မှုပညာရှင်များမှ ပြန်လည်စိစစ်ရန် လိုအပ်မည်ဖြစ်ပါကြောင်းသဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ဂ**

၁၁။ Guangdong Zhenrong Energy Co., Ltd. မှ ကုမ္ပဏီ Profile၊ လုပ်ငန်းလိုင်စင်နှင့်အတူ ငွေကြေးအထောက်အထားအဖြစ် Guangdong Zhenrong Energy Co., Ltd. သည် ၂၅-၃-၂၀၁၅ ရက်စွဲဖြင့် တရုတ်ယွမ်ငွေ ၂၄၂,၀၉၂,၉၇၀.၁၄ (ယူရို ၁၅၀,၂၁၅,၀၂၉.၄၅) ရှိကြောင်း Industrial and Commercial Bank of China (ICBC)မှ အထောက်အထားမိတ္တူများ တင်ပြထားပါသည်။ Longwin Global Pterochemical Co., Ltd. ၏ ကုမ္ပဏီအမည်စစ် အထောက်အထား မိတ္တူပူးတွဲတင်ပြထားပါသည်။

၁၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ကုမ္ပဏီမှတ်ပုံတင်အမှတ်- ၂၈/၁၉၉၀-၁၉၉၁ (၂၇-၄-၁၉၉၀) ဖြင့် ဖွဲ့စည်းထားကြောင်း အထောက်အထားမိတ္တူနှင့်အတူ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် ၃၀-၈-၂၀၁၂ ရက်စွဲဖြင့် စာရင်းအမှတ်- FUI 100025 တွင် ၁၄,၄၁၈,၁၄၈.၇၅ ရှိကြောင်းနှင့် စာရင်းအမှတ်- FDU 100003 တွင် US$ ၁၁,၅၅၂,၅၉၇.၈၈ ရှိကြောင်း Myanma Investment and Commercial Bank ၏ ထောက်ခံစာမိတ္တူ၊ ၃၀-၈- ၂၀၁၂ ရက်စွဲဖြင့် စာရင်းအမှတ်- IEA 0400267 တွင် ယူရို ၇၅၂,၂၉၀.၂၁ ရှိကြောင်းနှင့် စာရင်းအမှတ်- IDAC 492119 တွင် US$ ၂,၇၅၂,၅၃၀.၂၇ သန်းရှိကြောင်း Myanma Foreign Trade Bank ၏ ထောက်ခံစာမိတ္တူတို့ကို တင်ပြထားပါသည်။

၁၃။ Yangon Engineering Group Company Limited (ရန်ကုန်အင်ဂျင်နီယာအုပ်စုကုမ္ပဏီ) ၏ ကုမ္ပဏီမှတ်ပုံတင်အမှတ် ၅၂၂၉/၂၀၁၂-၂၀၁၃(၇-၃-၂၀၁၃)ဖြင့် ဖွဲ့စည်းထားကြောင်း

အထောက်အထားမိတ္တူနှင့် ၅-၅-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၁၀၀,၀၀၀ ရှိကြောင်း Asia Green Development Bank (ဆူးလေဘဏ်ခွဲ)၏ ထောက်ခံစာမိတ္တူတို့ကို တင်ပြထားပါသည်။

၁၄။ Memorandum of Understanding (MOU) ကို ၂၀၁၀ ခုနှစ် ဩဂုတ်လ ၂၄ ရက်နေ့တွင် လက်မှတ်ရေးထိုးပြီး သက်တမ်းတိုးအနေဖြင့် ၂၀၁၂ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်နေ့ အထိ သက်တမ်းရှိကြောင်းနှင့် Memorandum of Agreement (MOA) ကို ၂၀၁၂ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် အသီးသီးလက်မှတ်ရေးထိုးပြီးကြောင်း အထောက်အထားမိတ္တူတို့ကို တင်ပြထားပါသည်။

၁၅။ သင်္ဘောမှ ပိုက်လိုင်းသို့သယ်ယူမည့် နည်းလမ်း၊ သင်္ဘောမှ အတင်/အချ ပြုလုပ်ပုံ၊ ပိုက်လိုင်းအရှည်/အကျယ်နှင့်တကွ ရေနံစိမ်းသယ်ယူပို့ဆောင်မည့်နေရာရှိအနီး ပတ်ဝန်းကျင်အနေအထားအား မြေပုံဖြင့်တင်ပြထားပါသည်။

၁၆။ မြေပိုင်ဆိုင်မှု အထောက်အထားအားဖြင့် စက်မှုဝန်ကြီးဌာနမှ လောင်းလုံဆီအုန်း စက်ရုံအား လွှဲပြောင်းသည့် (နိုတီ) အထောက်အထားပါရှိပြီး စုစုပေါင်းကျပ် ၂၆၀၃.၂၅၄၆သန်း ဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သို့ မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းမှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်ရှိ စုစုပေါင်းမြေ ၁၆၃၆.၁၄ ဧက (ဆီအုန်းပင် မြေ ၁၆၁၁.၃၇ ဧက + ဆီအုန်းစက်ရုံမြေ ၂၄.၇၇ ဧက) အား ရောင်းချကြောင်း၂၀၁၂ ခုနှစ် မတ်လ ၁၆ ရက်နေ့ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။ (စာချုပ် (မိတ္တူမှန်)မပါရှိပါ)

၁၇။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ စက်ရုံတည်ဆောက်ရေးလုပ်ငန်း၏ ပထမအဆင့်အနေဖြင့် လိုအပ်မည့် မြေနေရာ ဖြစ်သည့် ဆီအုန်းခြံ အကွက်အမှတ် (၁) လောင်းလုံးခြံ (၃၃) ဧက၊ ဆီအုန်းခြံ အကွက်အမှတ် (၄) ရေပြတ်ချောင်းခြံ (၆၀) ဧက၊ အကွက်အမှတ် (၅) လေးသွန်း ခံခြံ (၂၀၀) ဧက၊ အကွက်အမှတ် (၆) ဂေါ့အင်းခြံ (၄၀) ဧက၊ **စုစုပေါင်း (၃၃၃) ဧက** အား မြေပုံရေးကူးဆောင်ရွက်ခွင့်နှင့် စက်မှုမြေအဖြစ် အသုံးပြုခွင့်တို့အတွက် ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၂၆ ရက်နေ့ ရက်စွဲဖြင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးသို့ လျှောက်ထားသည့်စာနှင့်အတူ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ **အဆိုပါမြေ ၃၃၃ဧက**အား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့ ရက်စွဲဖြင့် မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ပြုကြောင်း တနင်္သာရီတိုင်းဒေသကြီးမြေစာရင်း ဦးစီးဌာနသို့ ပေးပို့သည့်အကြောင်းကြားစာ မိတ္တူအား တင်ပြထားပါသည်။

၁၈။ လျှပ်စစ်ဓာတ်အားသုံးစွဲမှုစီမံချက်အနေနှင့် ကုမ္ပဏီမှ ပုံမှန်လျှပ်စစ်ဓာတ်အားကို သုံးစွဲမည်ဖြစ်ပြီး ပုံမှန်လျှပ်စစ်ဓာတ်အား ရရှိမှု မလုံလောက်ပါက 25,000 kW Turbine Generator ၄လုံး၊ 2,400 kw Diesel Generator ၂ လုံး၊ 1,800 kw Diesel Generator ၈ လုံးတို့အား သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၉။ ကုမ္ပဏီမှ လူမှုရေးဆိုင်ရာ တာဝန်ယူမှုများ (Corporate Social Responsibility-CSR) အတွက် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ထမ်းဆောင်ပြီးနောက် ကျန်ရှိသောအသားတင်အမြတ်၏ ၂ % ကိုထားရှိပြီး ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်း၊ လယ်ယာစိုက်ပျိုးရေးလုပ်ငန်း၊ ပညာရေး၊ လမ်းပန်းဆက်သွယ်ရေး အခြေအနေများတိုးတက်ကောင်းမွန်အောင်လုပ်ဆောင်ခြင်း၊ ဒေသအလုပ်အကိုင် အခွင့်အလမ်းများဖန်တီးပေးခြင်း၊ စိုက်ပျိုးရေးနည်းစနစ်များ တိုးတက်ကောင်းမွန်အောင်ထောက်ပံ့ပေးခြင်း၊ လှူဒါန်းပေးခြင်းများ ပြုလုပ်ပေးမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၂၀။ ရေသန့်စင်မှုစနစ်ကောင်းမွန်စေရန် စီမံကိန်းချမှတ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ရေစီးဆင်းမှုကောင်းမွန်အောင်နှင့် ရေပေးဝေမှုလောက်ငှအောင် သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အမှိုက်စွန့်ပစ်မှုစနစ်အနေဖြင့် စွန့်ပစ်ပစ္စည်းများကို စနစ်တကျအမျိုးအစားခွဲခြားပြီး စနစ်တကျစီမံခန့်ခွဲသွားမည်ဖြစ်ကြောင်း Product purification unit မှ ထွက်ရှိသော အန္တရာယ်ရှိ ဓာတုပစ္စည်းများအား စီမံကိန်း၏ WWTP tank oil sludge သို့ ထည့်၍ ဓာတ်ပြယ်အောင် ပြုလုပ်ပြီးမှ စွန့်ပစ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၂၁။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၂၂။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၅၀/၂၀၁၄ ဖြင့် ထုတ်ပြန်ထားသည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်ရယူရန် လိုအပ်သည့်စီးပွားရေးလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

၂၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပသော ၉/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂၄။ **စိစစ်တင်ပြချက်**

(က) စွမ်းအင်ဝန်ကြီးဌာန၊ Guangdong Zhenrong Energy Co., Ltd.၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ Yangon Engineering Group Co., Ltd. တို့

အကြားချုပ်ဆိုသော ဖက်စပ်စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့၏ သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်။

(ခ) Longwin Global Petrochemical Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုပမာဏ US$ ၂,၆၀၃ သန်းတွင် ဘဏ်ချေးငွေ US$ ၂,၀၈၂ သန်း (စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ၏ ၈၀%) နှင့် Equity US$ ၅၂၁ သန်း (စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု၏ ၂၀%) ပါဝင်ပါသည်။ ဘဏ်ချေးငွေနှင့် ပတ်သက်၍ China Development Bank မှ GDZR Co., Ltd. သို့ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့ ရက်စွဲပါစာဖြင့် ထုတ်ပေးထားသော Loan Commitment Letter ပူးတွဲတင်ပြထားပါသည်။ အဆိုပြုချက်ပုံစံ (အပိုင်း-III) Annex-16 တွင် Loan Repayment Schedule ပူးတွဲတင်ပြထားပါသည်။

(ဂ) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဆိပ်ခံတံတားမှ စက်ရုံအထိ ဖောက်လုပ်မည့်လမ်းအတွက် မြေကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း တင်ပြလာပါသည်-

(၁) ရေနံချက်စက်ရုံစီမံကိန်းအတွက် ရေနံတင်/ချမည့် ဆိပ်ကမ်းမှ စက်ရုံအထိ ပိုက်လိုင်းဆက်သွယ်ရန်နှင့် ယာဉ်များသွားလာရန် အကျယ် ၃၀မီတာခန့်နှင့် အရှည် ၄.၂၅ မိုင်ခန့် (၆.၈ ကီလိုမီတာခန့်) ရှိမည့် လမ်းအတွက် အသုံးပြုရန်မြေ ၁၁၀.၃၉၇ ဧကခန့် လိုအပ်လျက်ရှိပြီး လမ်းဖောက်လုပ်ရန် အသုံးပြုမည့်မြေဧရိယာတွင် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်ပိုင် ဆီအုန်းခြံအမှတ် (၄) နယ်နိမိတ် အဆုံးမှ ၂ ကီလိုမီတာ ခန့်အထိသည် ဒေသခံများပိုင်ဆိုင်သည့် ဥယျာဉ်ခြံမြေ၊ ၎င်းမှ ၆.၈ ကီလိုမီတာခန့်အထိ ဒေသခံများပိုင်ဆိုင်သည့် ဥယျာဉ်မြေများဖြစ်ပြီး ဆိပ်ကမ်းဧရိယာအတွက် အသုံးပြုမည့်မြေမှာ ၆၂.၂၉၅ဧက ခန့်ဖြစ်သည့်အတွက် လမ်းနှင့်ဆိပ်ကမ်းဧရိယာအတွက် အသုံးပြုမည့်မြေမှာ စုစုပေါင်း ၁၇၂.၆၉၂ ဧက ဖြစ်ကြောင်း တင်ပြထားပါသည်။

(၂) လမ်းဖောက်လုပ်ရန်အတွက် အသုံးပြုမည့်မြေဧရိယာများအတွင်း ပါဝင်သည့် ဥယျာဉ်ခြံမြေများအတွက် ကာလပေါက်စျေးထက် မနည်းသောစျေးနှုန်းဖြင့် လျော်ကြေးငွေပေးချေရန် ကြိုတင်ညှိနှိုင်းခြင်းများ ဆောင်ရွက်ခဲ့ရာ သဘောတူညီမှုများ ရရှိခဲ့ပြီး ဖြစ်ကြောင်းတင်ပြထားပါသည်။

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးပါက ဒေသအာဏာပိုင် အဖွဲ့အစည်းများ၊ ဥယျာဉ်ခြံမြေပိုင်ရှင်များနှင့် ညှိနှိုင်းဆောင်ရွက်ပြီး လိုအပ်သည့်မြေများ တိုင်းတာခြင်း၊ ကာလပေါက်စျေးထက်မနည်းသောစျေးနှုန်းဖြင့် လျော်ကြေးငွေပေးချေခြင်းများ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ထို့ပြင် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ရေနံချက်စက်ရုံ၏ ပင်မအဆောက်အဦများ၊ Waste Water Treatment Plant Warehouse များနှင့် Tank Farm တို့ကို ဧရိယာတစ်ခုတည်းတွင် စုစည်းတည်ဆောက်နိုင်ရန်အတွက် Design ရေးဆွဲခဲ့ရာ လောင်းလုံးမြို့မှ ကျောက်နီမော်သို့ ဆက်သွယ်သည့် ကားလမ်း၏ ၁.၃ မိုင်ရှည်လျားသည့် လမ်းပိုင်းသည် စက်ရုံဧရိယာအတွင်း ကျရောက်နေသည့်အတွက် အဆိုပြုလုပ်ငန်းတွင် ပါဝင်သည့် တာဝန်ရှိသူများသည် ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်နေ့တွင် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ တင်ပြဆွေးနွေးမှုခဲ့ရာ ကားလမ်းပိုင်းကို စက်ရုံဧရိယာအတွင်းသို့ ထည့်သွင်းခြင်းမပြုဘဲ ထိုလမ်း၏ တစ်ဖက်တစ်ချက်စီတွင်စက်ရုံနှင့် ဆက်စပ်အဆောက်အဦများ ဆောက်လုပ်သင့်ကြောင်း၊ လမ်း၏အပေါ်ဘက်မှ Overhead Pipe Line များဆက်သွယ်ခြင်းနှင့် လမ်း၏အောက်ဖက်မှ Underground Pipe Line များဆက်သွယ်ခြင်းကိုမူ ခွင့်ပြုနိုင်မည်ဖြစ်ကြောင်း ဆွေးနွေးလမ်းညွှန်၍ ကားလမ်းအရှေ့ဘက်ခြမ်း၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ဆီအုန်းခြံအမှတ်-၅ အတွင်း ရေနံချက်စက်ရုံ၏ ပင်မအဆောက်အဦများနှင့် Tank Farm အချို့ကို တည်ဆောက်ရန်နှင့် လမ်းအနောက်ဘက်ခြမ်း၌ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ဆီအုန်းခြံအမှတ်-၄ အတွင်းတွင် waste Water Treatment Plant၊ Warehouse များနှင့်၊ Tank Farm အချို့ကို တည်ဆောက်ရန် Design အသစ်ထပ်မံရေးဆွဲခဲ့ရာ လောင်းလုံး-ကျောက်နီမော်

ကားလမ်း၏ ၁.၃မိုင် ခန့်ရှည်သော လမ်းအပိုင်းကို စီမံကိန်းတည်ဆောက်မှု အတွက် တောင်းခံမည့်အစီအစဉ်နှင့် လမ်းလွှဲဖောက်မည့် အစီအစဉ်တို့ကို ပယ်ဖျက်ပါကြောင်း ပြင်ဆင်တည်ဆောက်မည့် စက်ရုံဧရိယာ Design အသစ်ဖြင့် ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်နေ့ ရက်စွဲပါစာဖြင့် ပြန်လည်တင်ပြလာပါသည်။

**ဆုံးဖြတ်ရန်အချက်**

၂၅။ Longwin Global Petrochemical Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့ရှိ မြေ ၇၃၃.၃ ဧက (၂,၉၆၇,၅၆၂.၄၃၈ စတုရန်းမီတာ) တွင် တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံနှင့်ရေနံတင်/ချဆိပ်ကမ်း တည်ဆောက်၍ ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဦးကျော်ဌေး(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

နောက်ဆက်တွဲ (

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်..........
ရက်စွဲ..........
ထားဝယ်မြို့

14-167
.3.16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၁၃၀၅ / ၇၄၆/ ၇-၄၆/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

-302
3.16

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၅(စ)/ ၀၁၅/ ၂၀၁၆(၀၆၅)

၁။ စွမ်းအင်ဝန်ကြီးဌာနမှ (၃.၅%)၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Guangdong Zhenrong Energy Co.,Ltd မှ (၇၀%)၊ မြန်မာနိုင်ငံမှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ (၂၀%)နှင့် Yangon Engineering Group Co.,Ltd မှ (၆.၅%) ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Longwin Global Petrochemical Co.,Ltd တည်ထောင်ပြီး ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်တွင် တစ်နှစ်လျှင် မက်ထရစ်တန်ချိန်(၅)သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံ စီမံကိန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အထက်ပါ အဆိုပြုတင်ပြထားသည့် ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်တွင် တစ်နှစ်လျှင် မက်ထရစ်တန်ချိန်(၅)သန်းခန့်ထွက်ရှိမည့် ရေနံချက်စက်ရုံ စီမံကိန်းလုပ်ငန်းများအပေါ် သဘောထားမှတ်ချက်တောင်းခံလာမှုနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိကြောင်း၊

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံအများစုက လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိကြောင်း၊

D:\Energy\energy(746)17

(ဃ) လုပ်ငန်းဆောင်ရွက်မည့်နေရာသည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် ပိုင်ဆိုင်သော ဆီအုန်းခြံ(၉)ခြံ၊ မြေဧရိယာ(၁၆၃၆.၁၄)ဧကအတွင်း ပါဝင်ပြီး ရေနံချက်စက်ရုံ စီမံကိန်းအတွက် မြေဧရိယာ(၃၃၃)ဧကသာ အသုံးပြုမည်ဖြစ်ကြောင်း။

၃။ အဆိုပြုတင်ပြထားသည့် ရေနံချက်စက်ရုံစီမံကိန်းနှင့် ပတ်သက်၍ (၂၅-၂-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄/ ၂၀၁၆) သို့ တင်ပြခဲ့ရာ စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ခြင်းအားဖြင့် ဒေသ၏စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ခြင်း၊ အလုပ်လက်မဲ့များ လျော့ကျလာမည်ဖြစ်ခြင်း၊ ဒေသ၏ဂျီဒီပီ တိုးတက်မြင့်မားလာစေပြီး ဒေသခံများ၏လူနေမှုဘဝမြင့်မားတိုးတက်လာမည်ဖြစ်ခြင်း၊ လောင်စာဆီ ဈေးနှုန်းများလျော့ကျလာပြီး အသေးစားနှင့်အလတ်စားစက်မှုလုပ်ငန်းများ တိုးတက်ဖြစ်ထွန်းလာမည်ဖြစ်ခြင်းတို့ကြောင့် ဆုံးဖြတ်ချက်အပိုဒ်(၂၇)အရ **"ကန့်ကွက်ရန်မရှိပါကြောင်း"** သဘောထား ပေးပို့အပ်ပါသည်။

(မြတ်ကို)
ဝန်ကြီးချုပ်

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ (ε

ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
ခွဲ(၁)

M4-164
4.3.16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁) ၂၀၁၆(ည)(၃ / ၂၃ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၅(စ)/၀၁၅/၂၀၁၆(၀၇၀)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် Yangon Engineering Group၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Guang Dong Zhen Rong Co., Ltd. (GDZR) တို့နှင့် အကျိုးတူပူးပေါင်း၍ တစ်နှစ်လျှင် ရေနံစိမ်း တန်ချိန်(၅)သန်း ချက်လုပ်နိုင်သော ရေနံချက်စက်ရုံ တည်ဆောက်ရေး စီမံကိန်းကို တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်တွင် စုစုပေါင်း (၆၂.၃) ဧက အကျယ်အဝန်းရှိ ရေနံတင်/ချ ဆိပ်ခံတံတားကို တည်ဆောက်လုပ်ကိုင်မည့် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ရက်သတ္တပတ်တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံသောပါသည်။

၂။ မြန်မာနိုင်ငံသည် အပြည်ပြည်ဆိုင်ရာ ရေကြောင်းအဖွဲ့ချုပ်၏ အဖွဲ့ဝင်နိုင်ငံ တစ်ခုဖြစ်သည့်အားလျော်စွာ အပြည်ပြည်ဆိုင်ရာရေကြောင်းအဖွဲ့ချုပ် (IMO) ၏ International Ship and Port Facility Security Code - ISPS Code ပါ လိုအပ်ချက်များအတိုင်း အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းများတွင် ဖြည့်ဆည်းဆောင်ရွက်ထားရန် လိုအပ်မည် ဖြစ်ပါသည်။ ထို့အပြင် လုံခြုံရေးအရာရှိနှင့် ဝန်ထမ်းများအတွက် ISPS Code ပါ လိုအပ်ချက်များအတိုင်း လေ့ကျင့်သင်ကြားပေးမှုနှင့် ကိုင်ဆောင်ရမည့်လက်မှတ်များ ကိုင်ဆောင်ထားရှိရန်လည်း လိုအပ်လာမည် ဖြစ်ပါသည်။ ISPS Code နှင့် ပြည့်စုံသော Port Security Plan ရေးဆွဲ၍ Plan ပါ အချက်များပြည့်စုံအောင် ဆောင်ရွက်ထားမှသာလျှင် “Compliance Certificate” အား ထုတ်ပေးနိုင်မည် ဖြစ်ပါသည်။

၃။ ဆိပ်ခံတံတားလုပ်ငန်းဆိုင်ရာ တင်ပြချက်တွင် DWT တန်ချိန် (၁၅၀,၀၀၀) ရှိသော ရေနံစိမ်း (Crude Oil) တင် သင်္ဘောကြီးများနှင့် DWT (၃၀,၀၀၀) , (၂၀,၀၀၀) ရှိသော ရေနံကုန်ချောတင်ဆောင်မည့် သင်္ဘောများ ဝင်ရောက်ဆိုက်ကပ် အသုံးပြုမည်ဟု ဖော်ပြထားသည့် အတွက် ဆီယိုဖိတ်မှု မတော်တဆ ဖြစ်မှုများ ဖြစ်ပွားလာပါက အရေးပေါ် အစီအစဉ်များ ချမှတ်အကောင်အထည်ဖော်နိုင်မည့် Oil Spill Contingency Plan အား ရေးဆွဲတင်ပြရန်နှင့် ဆိပ်ကမ်းအတွင်း ဆီယိုဖိတ်မှုဖြစ်စဉ် ဖြစ်လာပါက အရေးပေါ် ဆောင်ရွက်နိုင်ရန် Oil Booms များ၊ Skimmer စက်များ၊ Operate လုပ်နိုင်မည့် ပညာရှင်

အပါအဝင် လူအင်အားနှင့် ပစ္စည်းများအား Handle လုပ်နိုင်မည့် ပညာရှင်အပါအဝင် လူအင်အားနှင့် ပစ္စည်းများအား Handle လုပ်နိုင်မည့် Tug Boat များပါ ဖြည့်ဆည်းထားရန် လိုအပ်ပါသည်။

၄။ မြန်မာနိုင်ငံသည် MARPOL Annex I, II ကိုသာ လက်မှတ်ရေးထိုးထားပြီး ကျင့်သုံးနေသော်လည်း ယခုကဲ့သို့ ရေနံ တင်/ချ ဆိပ်ကမ်းကြီးများ ပေါ်ပေါက်လာပါက လိုအပ်သော OPRC Convention, CLC Convention, Bunker Convention, Fund Convention များကိုလည်း အမြန်ရေးထိုးနိုင်ရေး ဆောင်ရွက်လျက်ရှိရာ ထုတ်ပြန်လာမည့် ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများကိုလည်း လိုက်နာရန်နှင့် လိုအပ်ချက်များ ဖြည့်ဆည်းပေးရန် တာဝန်ရှိကြောင်းလည်း ကြိုတင်အသိပေးထားသင့်ပါသည်။

၅။ မြန်မာနိုင်ငံအနေဖြင့် Fund Convention အား အတည်ပြုလက်မှတ်ရေးထိုးပြီးချိန်တွင် ဆီမတော်တဆ ယိုဖိတ်မှုကိစ္စများအတွက် ဆီလက်ခံသည့် နိုင်ငံမှ ရန်ပုံငွေထည့်ဝင်ခြင်းကို ဆောင်ရွက်ရမည်ဖြစ်ရာ အဆိုပါ ကိစ္စအတွက် ကြိုတင်ပြင်ဆင် စီစဉ်ထားသင့်ပါသည်။

၆။ ထားဝယ်ရေနံချက်စက်ရုံ စီမံကိန်းဆိပ်ခံတံတားသည် တနင်္သာရီကမ်းရိုးတန်းတွင် တည်ရှိနေသည့်အတွက် လိုအပ်သော ဆန်းစစ်ချက် Report များ (EIA, SIA) ကိုလည်း ကြိုတင်ရေးဆွဲပြီး၊ ဒေသခံများအတွက် အသိပညာပေးလုပ်ငန်းများ ကြိုတင်ဆောင်ရွက်ထားရန်လည်း လိုအပ်လာမည် ဖြစ်ပါကြောင်းနှင့် ဆိပ်ကမ်းတည်ဆောက်မှုနှင့် သင်္ဘောကြီးများ ဝင်/ထွက်မှု အတွက် ဖြစ်ပေါ်လာမည့် ဒေသခံငါးဖမ်းလုပ်သားများ၏ နစ်နာမှုဖြစ်ပေါ်လာပါက ကြိုတင်ပညာပေး ညှိနှိုင်းထားရန်လည်း လိုအပ်မည်ဖြစ်ပါသည်။

၇။ Longwin Global Petrochemical Co., Ltd. မှ ရေနံတင်ဆိပ်ကမ်း တည်ဆောက်ရန်အတွက် ပုံစံဒီဇိုင်းများ ရေးဆွဲတင်ပြထားရာတွင် Crude Oil Jetty အား ပင်လယ်ပြင်ဘက်သို့ 1800 m ခန့် (ရေအနက် - 18.7 m)၊ Breakwater အား 1452 m(ရေအနက် - 14 m) ခန့်တွင် တည်ဆောက်မည်ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။ ပင်လယ်ပြင်သို့ 1800 m ခန့် စွန်းထွက်နေခြင်းကြောင့် ၎င်းနေရာဝန်းကျင် ရေဒေသအား အသုံးပြုနေသော အဖွဲ့အစည်းများနှင့် ပုဂ္ဂလိကရေယာဉ်ပိုင်ရှင်များအနေဖြင့် ရေကြောင်းသွားလာရေးအတွက် လွတ်ကင်းမှု ရှိ /မရှိနှင့် ပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ ညှိနှိုင်းသင့်ပါသည်။

၈။ အဆိုပါ ရေနံတင်ဆိပ်ကမ်း တည်ဆောက်ခြင်း ကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် တောင်းခံရန် လိုအပ်မည်ဖြစ်ပြီး ထားဝယ်ရေနက်ဆိပ်ကမ်း ဆောက်လုပ်ပြီးပါက ၎င်းဆိပ်ကမ်းသို့ Crude Oil နှင့် LNG ရေယာဉ်ကြီးများ ဝင်/ထွက်ရန် ရှိ/မရှိ၊ ရှိပါက လုပ်ငန်းသဘာဝတူမျိုး ဖြစ်နေနိုင်သဖြင့် ထားဝယ်အထူးစီးပွားရေးဇုန် စီမံခန့်ခွဲမှုကော်မတီသို့ပါ သဘောထားမှတ်ချက် တောင်းခံသင့်ပါသည်။

၄။ အဆိုပါ Crude Oil Jetty တွင် ဆိုက်ကပ်မည့်ရေယာဉ်များမှာ အပြည်ပြည်ဆိုင်ရာ ရေယာဉ်များဖြစ်သဖြင့် ဆောက်လုပ်မည့် ဆိပ်ကမ်းတံတားပုံစံကိုစွ၊ အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းသတ်မှတ်ရန်ကိုစွ၊ ဆိပ်ကမ်းအခွန်အခ နှင့် Royalty Fees ကိစ္စ၊ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့် လိုင်စင်ကိစ္စ စသည်တို့နှင့်ပတ်သက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် အသေးစိတ်ညှိနှိုင်းရန် လိုအပ်မည်ဖြစ်သည့် အပြင် ဆောက်လုပ်ပြီးစီးပါကလည်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေကို လိုက်နာရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

နောက်ဆက်တွဲ (၄


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စွမ်းအင်ဝန်ကြီးဌာန
မြန်မာ့ရေနံဓာတုပေဒလုပ်ငန်း
နေပြည်တော်

Tel : 067 - 411108, 411193
Fax : 067 - 411124
E-mail : MPEHO@mptmail.net.mm


စာအမှတ်၊ ၇၆၃ / ၁၅၀၄(၁)/ ဗ၁ / ၂၀၁၆
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ၊ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၃.၂၀၁၆ ရက်စွဲပါစာအမှတ် ရက-၅(စ)/ ၁၀၅/၂၀၁၆(၁၁၇)

၁။ အထက်ပါကိစ္စနှင့်ပတ်သက်၍ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်တွင် တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့် ချက်လုပ်မည့် ရေနံချက်စက်ရုံ စီမံကိန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ကုမ္ပဏီမှထုတ်လုပ်မည့် ရေနံထွက်ပစ္စည်းများ၊ တင်သွင်းမည့်ကုန်ကြမ်းများ၊ ဓာတုပစ္စည်းများနှင့်ပတ်သက်သည့် အချက်အလက်များနှင့် စက်ရုံတည်ဆောက်မှုနှင့် ပတ်သက်သည့် နည်းပညာပိုင်းဆိုင်ရာကိစ္စရပ်များအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပါ ရေနံချက်စက်ရုံစီမံကိန်းအဆိုပြုလွှာနှင့်ပတ်သက်၍ နည်းပညာပိုင်းဆိုင်ရာ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အီရန်နိုင်ငံမှ ရေနံစိမ်းအား တင်သွင်းချက်လုပ်မည်ဖြစ်ပြီး အပေါ့စားနှင့်အလေးစား (Light & Heavy Crude Oil) ၂ မျိုးကို 3 : 2 ဖြင့် ရောစပ်၍ ချက်လုပ်ရန် ဒီဇိုင်းပြုလုပ်ထား ပါသည်။ ရေနံစိမ်း Specification တွင် ဆာလ်ဖာပါဝင်မှုမှာ 1.52 ~ 1.72 wt% အထိရှိကြောင်းစိစစ်တွေ့ရှိရပါသည်။ Sour Crude ဖြစ်သော်လည်း Sulfur Recovery Unit ထည့်သွင်းတည်ဆောက်ထားပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆာလ်ဖာကို By Product အဖြစ် ထုတ်လုပ်ထားသဖြင့်ပြည်တွင်းဆာလ်ဖာ လိုအပ်ချက်ကိုလည်း ဖြည့်ဆည်းပေးနိုင်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။

\\192.168.20.1\e\Bo Nyan\office letter\GDZR\to moe (7.3.16).docx

(ခ) တစ်နေ့လျှင်ရေနံစိမ်း စည် ၁၀၀,၀၀၀ ခန့် ချက်လုပ်နိုင်သည့် စက်ရုံဖြစ်ခြင်းကြောင့် စီးပွားရေးတွက်ခြေကိုက်အရွယ်အစားရှိသည့် စက်ရုံဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) အဆိုပါစက်ရုံတွင် Plant/ Unit စုစုပေါင်း (၉) ခုပါဝင်ပြီး အဓိက ထုတ်ကုန်များအဖြစ် အောက်တိန်းအမှတ်မြင့်ဓာတ်ဆီ (RON 89, 92, 95)၊ လေယာဉ်ဆီ၊ အဆင့်မြင့်ဒီဇယ်ဆီ၊ ရေနံဓာတ်ငွေ့ရည်၊ Fuel oil၊ ဆာလ်ဖာနှင့် လမ်းခင်းကတ္တရာတို့ကို ထုတ်လုပ်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိ ရပါသည်။

(ဃ) ဓာတ်ဆီနှင့် ဒီဇယ်ဆီတို့၏ Specification များမှာ Euro IV Standard များဖြစ်ပြီး ကျန် Product များဖြစ်သည့် လေယာဉ်ဆီနှင့် ရေနံဓာတ်ငွေ့ရည်တို့၏ Specification များမှာ MPE Specification များနှင့် နီးစပ်ကိုက်ညီမှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ ရေနံချက်စက်ရုံများတွင် MTBE သုံးစွဲ၊ထုတ်လုပ်မှုအား ပိတ်ပင်တားမြစ်ထားပါသည်။ အဆိုပါရေနံချက်စက်ရုံတွင် သဘာဝပတ်ဝန်းကျင်နှင့်ကျန်းမာရေးကိုထိခိုက်ပျက်စီးနိုင်သည့် အောက်တိန်းအမှတ်မြင့် ဓာတ်ဆီထုတ်လုပ်ရာတွင်သုံးစွဲသည့် MTBE Unit အား တည်ဆောက်တပ်ဆင်ထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ အောက်တိန်းအမှတ်မြင့်ဓာတ်ဆီထုတ်လုပ်ရေးအတွက် Fluidized Catalytic Cracking (FCC) Plant နှင့် Isomerization unit တို့ကိုတပ်ဆင် အသုံးပြုထား ကြောင်းစိစစ်တွေ့ရှိရ ပါသည်။

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစဉ်များအနေဖြင့် ရေဆိုးသန့်စင်ရေး စက်ရုံနှင့် လေထုညစ်ညမ်းမှုလျော့ချရေးအတွက် ဆောင်ရွက်မည့်နည်းစဉ်များ၊ Solid waste ဖြစ်သည့် Spent catalyst များအား Manufacture Recovery ပြုလုပ်ခြင်းနှင့် စနစ်တကျစွန့်ပစ်မည့်အစီအမံများပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ Chinese Standard များနှင့်အညီ စွန့်ထုတ်မည့် Waste Emission စံချိန်စံညွှန်းများကို တင်ပြထားပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ National Environmental Quality(Emission) Guideline အား ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလတွင် အတည်ပြုထုတ်ပြန် ထားပြီးဖြစ်သဖြင့် အဆိုပါ စံချိန်စံညွှန်းများအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

(ဆ) မီးဘေးအန္တရာယ်နှင့် လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေး(Firefighting and HSE ) တို့အတွက် Chinese Standard များနှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဇ) အဆိုပြုလွှာပါ နည်းပညာပိုင်းဆိုင်ရာအချက်အလက်များသည် အခြေခံရေနံချက်လုပ်မှုနည်းစဉ် (Conceptual Refining Technology) များဖြစ်သဖြင့် Detail Engineering Design ရေးဆွဲပြီးပါက နည်းပညာပိုင်းဆိုင်ရာ အချက်အလက်များကို ကျွမ်းကျင်ပညာရှင်များမှ ပြန်လည်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုတင်ပြလာသည့် တစ်နှစ်လျှင် မက်ထရစ်တန် ၅ သန်းခန့် ချက်လုပ်မည့် ရေနံချက်စက်ရုံစီမံကိန်းမှထွက်ရှိလာမည့် Product များမှာ အဆင့်မြင့် စက်သုံးဆီများဖြစ်ခြင်းနှင့် ရေနံချက်စက်ရုံများတွင် တားမြစ်ပိတ်ပင်ထားသည့် MTBE ကို သုံးစွဲမှုမရှိခြင်းတို့ကြောင့် နည်းပညာပိုင်းအရ သင့်တော်မှုရှိပါကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် အတည်ပြုပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒနှင့် ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သုံးသပ် စိစစ်တင်ပြအပ်ပါသည်။

သန့်စင်
ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူ-
✓စွမ်းအင်ဝန်ကြီးဌာန၊
လက်ခံစာတွဲ
မျှောစာတွဲ

\\192.168.20.1\e\Bo Nyan\office letter\GDZR\to moe (7.3.16).docx

လျှို့ဝှက်

၈

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၆ ( ၂ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ Joint Venture Agreement လက်မှတ်ရေးထိုးခွင့်ကိစ္စ

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ Guangdong Zhenrong Energy Co., Ltd ၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Yangon Engineering Group Co., Ltd တို့သည် Longwin Global Petrochemical Company Limited ကို ရန်ကုန်မြို့၌ တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၏ တောင်ဘက် သုံးမိုင်ခန့်အကွာရှိ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန် (၅) သန်း ချက်လုပ်နိုင်မည့် ရေနံချက်စက်ရုံ စီမံကိန်းလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် Joint Venture Agreement ကို လက်မှတ်ရေးထိုးခွင့်ပြုပါရန် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ပူးတွဲ - (၂) ရွက်

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန (၃)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅)၁ - ၃ / နပတ( ၁၅၀ )

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ဖေဖော်ဝါရီလ ၁၅ ရက်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့၊ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင်ရေနံစိမ်းတန်ချိန် (၅)သန်းချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံတည်ဆောင်မှုအတွက် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက်။ စွမ်းအင်ဝန်ကြီးဌာန၏ ၄-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ စီမံ-စာရင်း/ ၃/ ၀၃ (၁၁၆) ၂၀၁၆

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ Guangdong Zhenrong Energy Co., Ltd (GDZR)၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (MEHL) နှင့် Yangon Engineering Group (YEG) တို့အကြား Joint Venture Agreement ဖြင့် Longwin Global Petrochemical Company Limited ကို ရန်ကုန်မြို့၌ တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့၏ တောင်ဘက်သုံးမိုင်ခန့်အကွာရှိ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန်(၅)သန်းချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံတည်ဆောက်မှု စီမံကိန်းဆောင်ရွက်ရေးအတွက် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါ သည်။

၂။ စီမံကိန်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၆၀၃) ဘီလီယံဖြစ်ပြီး စာချုပ်သက်တမ်းမှာ ကနဦးနှစ်(၅၀)နှင့် (၁၀)နှစ် (၂)ကြိမ်သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ကြောင်း၊ စီမံကိန်းဆောင်ရွက်ရာတွင် စွမ်းအင်ဝန်ကြီးဌာနက Golden Share အဖြစ် 3.5% ၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က 20% ၊ Yangon Engineering Group က 6.5% နှင့် GDZR က 70% အသီးသီး

ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်း၊ JV ကို BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြစ်ပါကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ အထက်အပိုဒ်ပါ JV Company ကို ၂၄-၈-၂၀၁၀ ရက်စွဲပါ MOU စာချုပ်နှင့် ၂၆-၁-၂၀၁၂ ရက်စွဲပါ MOA ပါစည်းကမ်းချက်များအရ ဆောင်ရွက်ခြင်းဖြစ်ပြီး ယခင်က Htoo Group of Companies မှာ ယခုအခါ Yangon Engineering Group Company Limited အဖြစ် အမည်ပြောင်းလဲဖွဲ့စည်းထားခြင်းဖြစ်ပါကြောင်း ဖော်ပြထားသည်ကိုလည်း တွေ့ရှိရပါသည်။

၄။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော Joint Venture Agreement (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions, Abbreviations and Interpretations ခေါင်းစဉ်အောက်ရှိ Business Day ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် စင်္ကာပူနိုင်ငံ၏ ရုံးပိတ်ရက်ကိုပါ ထည့်သွင်းဖော်ပြထားရာ ဤစာချုပ်နှင့် ဆက်စပ်မှုမရှိဟု ယူဆပါသဖြင့် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions, Abbreviations and Interpretations ခေါင်းစဉ်အောက်ရှိ Concession Rights ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် Project ကုမ္ပဏီအနေဖြင့်စီမံကိန်းနှင့်စပ်လျဉ်း၍ တည်ဆောက်ခြင်း၊ ငွေကြေးထည့်ဝင်ခြင်း၊ ပိုင်ဆိုင်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်း၊ ထိန်းသိမ်းခြင်းတို့အတွက် တစ်ဦးတည်းသီးသန့်အခွင့်အရေး (exclusive right) ရရှိမည်ဖြစ်ကြောင်း၊ အပိုဒ် 7.1 Grant of Concession Rights တွင် MOEP အနေနှင့် Concession Rights ရရှိရန် ကူညီဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း နှင့် အပိုဒ် 7.2 တွင် Concession Rights ရုတ်သိမ်းခြင်းမပြုရန် ကြိုးစားဆောင်ရွက်ရမည်ဖြစ်ကြောင်း ဖော်ပြထားရာ MOEP အနေဖြင့် Concession Rights နှင့်သက်ဆိုင်သည့် စည်းကမ်းချက်များအား သတိပြုသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 6.1.2 Decisions of General Meeting ခေါင်းစဉ်အောက်ရှိ Ordinary Resolution ဖြင့် ဆုံးဖြတ်ဆောင်ရွက်ရမည့် ကိစ္စရပ်များအဖြစ် အပိုဒ်ခွဲ (i) မှ (xiv) အထိ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါအချက်များအနက် အပိုဒ်ခွဲ (vi) ပါ ကုမ္ပဏီ Bonds များကို ထုတ်ခြင်းနှင့် အပိုဒ်ခွဲ (xi) ပါ Concession Rights နှင့်စပ်လျဉ်း၍ ဖော်ပြ ထားသည့် စည်းကမ်းချက်တို့ကို Special Resolution ဖြင့် ဆုံးဖြတ်ဆောင်ရွက်ရမည့် ကိစ္စရပ်များအဖြစ် ပြောင်းလဲသတ်မှတ်ဖော်ပြရန်သင့် မသင့် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8.1 Exemption and Reliefs ခေါင်းစဉ်ပါ စည်းကမ်းချက်များတွင် စွမ်းအင်ဝန်ကြီးဌာနက ဆောင်ရွက်ပေးရမည့်ကိစ္စရပ်များအဖြစ် အခွန်ကင်းလွတ်သက်သာခွင့်များကို ဖော်ပြထားရာ ယင်းသို့ဖော်ပြထားသည့်အတိုင်း လက်ခံဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိ၊ လက်ခံဆောင်ရွက်ပေးရန်သင့် မသင့်တို့ကို ကြိုတင်သတိပြုစိစစ်သင့်ပါသည်။ ထို့ပြင် Project Company အား ကင်းလွတ်ခွင့်၊ သက်သာခွင့်ပြုရမည့်ကိစ္စရပ်များအဖြစ် အခွန်ပေးဆောင်ခြင်းမှ ကင်းလွတ်ခွင့်ပြုခြင်း၊ ပြဋ္ဌာန်းဥပဒေများပြောင်းလဲခြင်းဖြစ်ပေါ်ပါက ထိုသို့ပြောင်းလဲသည့်အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မှုမရှိကြောင်း၊ ဤစာချုပ်အရ ပေးအပ်သည့် tax incentives ထက် အခြားသောနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စီမံကိန်းတို့က ပိုမိုကောင်းမွန်မြင့်မားပါက ဤစာချုပ်အရ ဆောင်ရွက်သည့် စီမံချက်လုပ်ငန်းအနေဖြင့် အလိုအလျောက်ရရှိခံစားနိုင်ခွင့်ရှိစေရမည်ဖြစ်ကြောင်းတို့ကို စွမ်းအင်ဝန်ကြီးဌာနက အာမခံပေးရမည့်သဘော ရေးသားဖော်ပြထားရာ အမှန်တကယ်ဆောင်ရွက်ပေးနိုင်ခွင့်နှင့် ဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိတို့ကို ကြိုတင်သတိပြုစိစစ်သင့်ပါကြောင်း အကြံ

ပြုပါသည်။ ထို့ပြင် အခွန်ကင်းလွတ်ခွင့်နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရယူဆောင်ရွက်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် 9 Warranty and Representations ၊ အပိုဒ်ခွဲ 9.1.4 တွင် ဤစာချုပ်ပါ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်းတို့သည် မှန်ကန်မှုရှိပါကြောင်း ဖော်ပြထားပါသည်။ အပိုဒ်ခွဲ 17.1 Indemnification ၊ အပိုဒ်ခွဲငယ် 17.1.1 တွင် ဤစာချုပ်နှင့် ဤစာချုပ်၌ ရည်ညွှန်းဖော်ပြထားသည့် အခြားသော စာချုပ်များ၌ ဖော်ပြထားသည့် "ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း" တို့သည် မှန်ကန်တိကျမှုမရှိပါက ဤစာချုပ်အား ချိုးဖောက်သည်ဟု မှတ်ယူရန်နှင့် အဆိုပါချိုးဖောက်မှုကို (၄၅)ရက်အတွင်း ကုစားနိုင်ခြင်းမရှိပါက Project Company နှင့် အခြား parties တို့ကို လျော်ကြေးပေးရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့ပါ၍ စာချုပ်၌ ရည်ညွှန်းဖော်ပြထားသည့် တာဝန်ဝတ္တရားများကို အမှန်တကယ်ဆောင်ရွက်နိုင်ခွင့်နှင့် ဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိတို့ကို စာချုပ်ဝင်များက ကြိုတင်သတိပြုစိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 10.1 Design Requirements ၊ အပိုဒ်ခွဲငယ် 10.1.1 တွင် Refinery Plant နှင့် အခြားစီမံကိန်းလုပ်ငန်းများကို ဆောင်ရွက်ရာ၌ "design of construction" ကို မြန်မာ သို့မဟုတ် တရုတ်နိုင်ငံတွင်ကျင့်သုံးသည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားရာ "တရုတ်နိုင်ငံ" အစား "နိုင်ငံတကာ" ဟုပြင်ဆင်ဖော်ပြရန်သင့် မသင့် ဌာနက ပြန်လည်သုံးသပ်သင့်ပါသည်။

(ဆ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 12.3 Sales of Products ၊ အပိုဒ်ခွဲငယ် 12.3.1 ၊ နှင့် 12.3.2 တို့တွင် "petroleum products" နှင့် "semi-manufactured products" တို့ကို နိုင်ငံခြားဈေးကွက်သို့သာ ရောင်းချရန်ဖြစ်ကြောင်း၊ ပြည်တွင်းဈေးကွက်၌ ရောင်းချဖြန့်ဖြူးပိုင်ခွင့်မရှိကြောင်း ဖော်ပြထားရာ လက်ခံ

ရန်သင့် မသင့် ဌာန၏ စိမံခန့်ခွဲမှုဘောင်အတွင်းမှ ပြန်လည်သုံးသပ်သင့်ပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)အရ ရေနံချက်စက်ရုံ တည်ဆောက်မည်ဖြစ်ကြောင်းနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက် မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆ တွင် "ကော်မရှင်သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့၏ လုံခြုံရေးအခြေအနေ၊ စီးပွားရေးအခြေအနေ၊ ပတ်ဝန်းကျင် အခြေအနေနှင့် လူမှုအကျိုးစီးပွားကိုကြီးမားစွာ အကျိုးသက်ရောက်မှုဖြစ်စေနိုင် သောနိုင်ငံခြားသားနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းကြီးများကို ပြည်ထောင်စု အစိုးရအဖွဲ့မှတစ်ဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်" ဟုပြဋ္ဌာန်းထား သည်ကို သိရှိနိုင်ပါရန် ဖော်ပြအပ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 14.3 General Obligations of MEHL တွင် မြန်မာ့ စီးပွားရေးဦးပိုင်လီမိတက်အနေဖြင့် မြေအသုံးပြုခွင့်အပါအဝင် အဆိုပါ မြေပေါ်ရှိ "towns, villages, cultivated farm Lands, orchards, religious monuments, monasteries, churches, schools, hospitals --------" အစရှိ သည်တို့ကို ဖယ်ရှားဆောင်ရွက်ရန်၊ ဖယ်ရှားရမည့် ပုဂ္ဂိုလ်များနှင့် ညှိနှိုင်းဆွေး နွေးပြီး ပြန်လည်နေရာချထားပေးရန်နှင့် ထိုသို့ဆောင်ရွက်မှုများအားလုံးကို Project Company က ကျခံဆောင်ရွက်ပေးရန် ဖော်ပြထားရာ လက်ခံဆောင် ရွက်ပေးရန်သင့် မသင့် နှင့် မျှတမှုရှိ မရှိတို့ကို ပြန်လည်သုံးသပ်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 18.2.2 Assignment of Concession Rights တွင် Project Company အနေဖြင့် ၎င်းရရှိထားသည့် Concession Rights အားလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို အခြားသောကုမ္ပဏီတစ်ခုခုအား ပြန်လည် လွှဲပြောင်းပိုင်ခွင့်ရှိကြောင်းနှင့် ထိုသို့လွှဲပြောင်းပေးသည့်အခါ လိုအပ်သည့် ဌာန ဆိုင်ရာခွင့်ပြုချက်များကို စွမ်းအင်ဝန်ကြီးဌာနက ကူညီဆောင်ရွက်ပေးရမည်ဖြစ် ကြောင်း ဖော်ပြထားပါသည်။ Concession Rights အား တစ်ဆင့်လွှဲပြောင်း

ဆောင်ရွက်ခြင်းဖြင့် နောင်တွင်မလိုလားအပ်သော ပြဿနာများပေါ်ပေါက်နိုင်ပါသဖြင့် ဌာနအနေဖြင့် လက်ခံရန်သင့် မသင့် အထူးသတိပြုစိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် 19 Dispute Resolution and Governing Law တွင် အငြင်းပွားမှုများကို ရက်ပေါင်း(၆၀)အတွင်း ငြိမ်းချမ်းစွာဖြေရှင်းမရပါက မြန်မာနိုင်ငံရန်ကုန်မြို့တွင် Myanmar Arbitration Law, 2016 ဖြင့် ဖြေရှင်းဆောင်ရွက်ရန် ဖော်ပြချက်မှာ သင့်လျော်မှုရှိပါသည်။ သို့ပါ၍ အပိုဒ်ခွဲ 19.2 ၏ ဒုတိယအပိုဒ်တွင် ဖော်ပြထားသည့် စင်္ကာပူနိုင်ငံတွင် ဖြေရှင်းဆောင်ရွက်မည်ဆိုသည့်စည်းကမ်းချက်စာပိုဒ်ကို ပယ်ဖျက်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် 20 Termination ခေါင်းစဉ်ပါ စည်းကမ်းချက်တွင် စာချုပ်ဝင်များအကြား သဘောတူညီမှုဖြင့်လည်း ဤစာချုပ်အား ရပ်စဲနိုင်ကြောင်း စည်းကမ်းချက်အား ထည့်သွင်းဖော်ပြရန် သင့် မသင့် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 21.10 Effectiveness ခေါင်းစဉ်ပါ စည်းကမ်းချက်တွင် ဖော်ပြထားသည့်အချက်(၃)ချက်အားလုံး ပြည့်စုံစွာ ဆောင်ရွက်ပြီးသည့်အခါမှသာ ဤစာချုပ်အသက်ဝင်မည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါအချက်(၃)ချက်အား ဆောင်ရွက်ပေးနိုင်ခြင်းမရှိပါက ဤစာချုပ်မှာလည်း အကျိုးသက်ရောက်မှုရှိမည်မဟုတ်သည်ကို ဌာနက သတိပြုသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 20.3 Valuation and Transfer of the Project Company upon Termination ခေါင်းစဉ်ပါ စည်းကမ်းချက်များအရ စာချုပ်ရပ်စဲသည့်အခါ ကုမ္ပဏီ၏လုပ်ငန်းနှင့် ပစ္စည်းတို့ကို တန်ဖိုးတွက်ချက်ပြီးနောက် တတိယပုဂ္ဂိုလ်သို့ ကုမ္ပဏီက ရောင်းချရမည်ဖြစ်ကြောင်း ဖော်ပြ

ထားပါသည်။ JV Agreement ပါစည်းကမ်းချက်များအရ BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြစ်ပါသဖြင့် စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ ဖြစ်စေ၊ စာချုပ်သက်တမ်းကုန်ဆုံးခြင်းမပြုမီ စောစီးစွာစာချုပ်ရပ်စဲရသည့်အခါဖြစ်စေ စာချုပ်ပါလုပ်ငန်းနှင့်မြေကို သက်ဆိုင်ရာဌာနသို့ ပြန်လည်လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ သို့ပါ၍ အဆိုပါအပိုဒ် 20.3 ပါ စည်းကမ်းချက်များအား ထည့်သွင်းဖော်ပြရန်သင့်လျော်မှုရှိ မရှိ ဌာနက ပြန်လည်သုံးသပ်သင့်ပါ သည်။ ထို့ပြင် အကယ်၍ တတိယပုဂ္ဂိုလ်သို့ ရောင်းချရန် သဘောတူမည်ဆိုပါကလည်း မည်သို့သောပုဂ္ဂိုလ်၊ မည်သည့်နိုင်ငံသားကိုသာ မည်သည့်အဖွဲ့အစည်း၏ အတည်ပြုချက်ဖြင့် ရောင်းချရမည်ဆိုသည့် စည်းကမ်းချက်အား ထပ်မံဖြည့်စွက်ဖော်ပြခြင်းဖြင့် နိုင်ငံတော်၏ အမျိုးသားအကျိုးစီးပွားကို ကာကွယ်ထိန်းသိမ်းနိုင်မည်ဖြစ်ပါကြောင်း အကြံပြုပါသည်။

၅။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော Land Lease Agreement (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်တွင် တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီသည် မည်သည့်နိုင်ငံ၏ ဥပဒေအရ ဖွဲ့စည်းထားခြင်းဖြစ်ကြောင်းနှင့် ၎င်းစာချုပ်အား ကိုယ်စားပြုချုပ်ဆိုမည့် ပုဂ္ဂိုလ်တို့၏ အမည်၊ ရာထူးတို့ကို ပြည့်စုံစွာ ဖြည့်စွက်ဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 1.1 Leased Property တွင် အငှားချထားမည့် မြေဧရိယာစုစုပေါင်းမှာ 733.3 ဧကဖြစ်ကြောင်းနှင့် အဆိုပါမြေ၏ မြေပုံကို Exhibit A အဖြစ် ပူးတွဲထားကြောင်း ဖော်ပြထားသော်လည်း မြေပုံမှာ ပူးတွဲပါရှိခြင်းမရှိပါ။ အငှားချထားမည့်မြေနှင့် စပ်လျဉ်း၍ အငှားချထားသူ ဌာနက တရားဝင်ပိုင်ဆိုင်ခွင့်၊ အငှားချထားပိုင်ခွင့်ရှိရန် လိုအပ်သကဲ့သို့ အငှားချထားမည့် မြေ၏မြေပုံမှာလည်း သက်ဆိုင်ရာဦးစီးဌာနက တရားဝင်ရေးဆွဲထားသည့်

မြေပုံဖြစ်ရန် လိုအပ်ပါသည်။ ထို့အတူ နောက်ဆက်တွဲများသည် စာချုပ်၏ ခွဲထုတ်မရသော အစိတ်အပိုင်းတစ်ရပ်ဖြစ်ပါသဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် စာချုပ်၌ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 1.2 Usage of Leased Property တွင် အငှားချထားသည့်မြေပေါ်တွင် မြန်မာနိုင်ငံ၏ ဥပဒေအရ ခွင့်ပြုသည့်မည်သည့်စီးပွားရေးလုပ်ငန်းကိုမဆို "any business" ဆောင်ရွက်ခွင့်ရှိကြောင်း ဖော်ပြထားရာ အဓိပ္ပါယ်ကျယ်ပြန့်လွန်းသည်ဟု ယူဆပါသည်။ သို့ပါ၍ JV Agreement နှင့် MOA ပါ စီးပွားရေးလုပ်ငန်းများကို မြန်မာနိုင်ငံ၏ ဥပဒေများနှင့်အညီ ဆောင်ရွက်ရန်အတွက် မြေအားငှားရမ်းဆောင်ရွက်ခြင်းဖြစ်ကြောင်း ဖော်ပြပါ က ပိုမိုသင့်မြတ်မှုရှိမည်ဖြစ်ပါသဖြင့် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 1.3 ၊ 5.1(3) အပါအဝင်စာချုပ်၏ အခြားစည်းကမ်းချက်များတွင် ရည်ညွှန်းထားသည့် "third party approved by the Lessee" ဟူသောစကားရပ်နှင့်စပ်လျဉ်း၍ မည်သူများဖြစ်သည်၊ မည်သည့်ကိစ္စရပ်များအတွက် မည်သူတို့၏ ခွင့်ပြုချက်ဖြင့် ဤစာချုပ်၌ပါဝင်ပတ်သက်ခြင်းဖြစ်သည် စသည်တို့မှာ ရှင်းလင်းမှုမရှိပါ။ ထို့ပြင် အပိုဒ်ခွဲ 1.5 အရ အငှားချထားမည့် ဌာနဖြစ်သူ MEHL ၏ ပိုင်ဆိုင်မှုသည် 12.7 ဧကသာဖြစ်ကြောင်း စာချုပ်ဝင်များက အသိအမှတ်ပြုထားကြောင်းလည်း ဖော်ပြထားပြီးဖြစ်ရာ အငှားချထားမည့် မြေဧရိယာနှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ဌာနက အထူးသတိပြုဆောင်ရွက်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.1 Rent Amount တွင် မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် တစ်ဧကအတွက် USD 0.5 ဟုဖော်ပြထားရာ သင့်လျော်မှုတမှုရှိ မရှိ ပြန်လည်သုံးသပ်သင့်ပါသည်။ ထို့အတူ အဆိုပါငှားရမ်းခကို မည်သည့်အချိန်တွင် မည်သူ သို့မဟုတ် မည်သည့်ဘဏ်စာရင်းအမှတ်သို့ မည်သည့်နည်းလမ်း

ဖြင့် ငွေပေးချေမည်၊ ငှားရမ်းခအား သတ်မှတ်ရက်တွင် ပေးချေခြင်းမပြုပါက မည်သို့ဆက်လက်ဆောင်ရွက်မည်စသည့်အချက်များအား ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ သို့ပါ၍ အငှားချထားသည့် မြေ၏မြေငှားရမ်းခနှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ဌာနက ကြိုတင်စိစစ်ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5.1 Obligations of the Lessor တွင် ဖော်ပြထားသည့် စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ အငှားချထားသူ ဌာနအနေဖြင့် ဖော်ပြပါစည်းကမ်းချက်များအတိုင်း အမှန်တကယ်ဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိ ကြိုတင်စိစစ်ပြီးမှ လက်ခံရန်သင့် မသင့် ပြန်လည်သုံးသပ်ပါက ပိုမိုသင့်မြတ်မှု ရှိမည်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5.1(6) တွင် စာချုပ်သက်တမ်းအတွင်း ဤစာချုပ်အား တစ်ဖက်သတ်ရုပ်စဲခြင်း မပြုကြောင်းကို Lessor ၏ တာဝန်အဖြစ် ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ကြိုတင်မျှော်မှန်းနိုင်စွမ်းမရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာ၍ စာချုပ်အားမဖြစ်မနေရုပ်စဲရန် လိုအပ်ခဲ့ပါက ဤစည်းကမ်းချက်သည် ဌာနအတွက် အဟန့်အတားဖြစ်စေနိုင်ပါသဖြင့် ထည့်သွင်းဖော်ပြရန် မသင့်ပါကြောင်း အကြံပြုပါသည်။ ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 6.1 Obligations of the Lessee ၊ အပိုဒ်ခွဲငယ် (9) တွင် မြေငှားရမ်းသက်တမ်းကုန်ဆုံးပြီး (၂)လအတွင်း မြေကို Lessor သို့ ပြန်လည်ပေးအပ်ရမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း အဖိုးစားနား မပါဘဲ ပေးအပ်ရမည်ဖြစ်ကြောင်း ဖော်ပြထားခြင်း မရှိပါသဖြင့် "without consideration" ဟူသောစာသားအား ထပ်မံဖြည့်စွက်ဖော်ပြပါက ပိုမိုသင့်မြတ်မှုရှိမည်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7.1 Flaws or Legal defects on the Leased Property တွင် Lessor သည် အငှားချထားမည့်မြေ၏ တရားဝင်ပိုင်ရှင်ဖြစ်ကြောင်းနှင့် မြေပိုင်ဆိုင်မှုနှင့်စပ်လျဉ်း၍ ဥပဒေကြောင်းအရ ချို့ယွင်းမှုမရှိပါကြောင်း ဖော်ပြထားပါသည်။ အပိုဒ်ခွဲ 9.2 တွင် စာချုပ်ဝင်တစ်ဦး၏ ပျက်ကွက်မှု Default ကြောင့် နစ်နာမှုဖြစ်ပေါ်လာပါက ငွေကြေးပေးလျော်ခြင်းသည် လုံလောက်မှုမရှိကြောင်းကို နားလည်သဘောတူပါကြောင်း ဖော်ပြထားပါ သည်။ အပိုဒ်ခွဲ 9.1 တွင် ဤစာချုပ်ပါ စာချုပ်ဝင်၏ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်းတို့သည် မှန်ကန်မှုမရှိပါက ယင်းကိုပျက်ကွက်မှု "Default" အဖြစ် သတ်မှတ်ရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ အပိုဒ်ခွဲ 1.5 အရ ဌာနဖြစ်သူ Lessor or MEHL ပိုင်ဆိုင်သည့်မြေမှာ 12.7 ဧကမျှသာဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့ပါ၍ စာချုပ်ပါစည်းကမ်းချက်များအချင်းချင်းညီညွတ်မျှတမှုရှိစေရေးအတွက် ဌာနက သတိပြုစိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် XIV Arbitration တွင် အငြင်းပွားမှုများကို ရက်ပေါင်း (၆၀)အတွင်း ငြိမ်းချမ်းစွာဖြေရှင်းမရပါက မြန်မာနိုင်ငံရှိ ရန်ကုန်မြို့တွင် ခုံသမာဓိနည်းဖြင့် ဖြေရှင်းဆောင်ရွက်ရန် ဖော်ပြထားရာ သင့်မြတ်မှုရှိပါသည်။ သို့ရာတွင် ဖြေရှင်းရာတွင် လိုက်နာရမည့်ဥပဒေအား "Arbitration Act (Myanmar Act No. IV of 1944) ဟုရေးသားထားရာ ယင်းအစား Myanmar Arbitration Law, 2016 ဟုရေးသားဖော်ပြရန်ဖြစ်ပါသည်။ ထို့အတူ ဒုတိယပိုဒ်တွင် ဖော်ပြထားသည့် စင်္ကာပူနိုင်ငံတွင် ဖြေရှင်းဆောင်ရွက်မည်ဆိုသည့် စည်းကမ်းချက်အား ပယ်ဖျက်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 15.9 တွင် အဖိုးတန်သယံဇာတများတွေ့ရှိပါက သက်ဆိုင်ရာအစိုးရအာဏာပိုင်များသို့ အကြောင်းကြားရမည်ဖြစ်ကြောင်း ဖော်ပြ

ထားရာ "ချက်ချင်း" အကြောင်းကြားရမည်ဖြစ်ကြောင်း ဖြည့်စွက်ဖော်ပြပါက ပိုမိုသင့်မြတ်မှုရှိမည်ဖြစ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)တွင် ဤစာချုပ်အား လွှမ်းမိုးသည့်ဥပဒေမှာ မြန်မာနိုင်ငံ၏ ဥပဒေများဖြစ်ကြောင်း စည်းကမ်းချက်မပါရှိသဖြင့် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဉ) စာချုပ်(မူကြမ်း)တွင် စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်မည်ဆိုသည့် စည်းကမ်းချက်မပါရှိသဖြင့် (Renegotiation) ထည့်သွင်းဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ဖော်ပြပြီးဖြစ်ရန် လိုအပ်ပါသည်။

၆။ ပူးတွဲပေးပို့လာသော သင်းဖွဲ့မှတ်တမ်း (MOA)(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည်-

(က) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ် V တွင် ကုမ္ပဏီ၏သတ်မှတ် မတည်ရင်းနှီးငွေ Authorized Capital ကို ဖော်ပြထားသော်လည်း ကုမ္ပဏီ၏ ထည့်ဝင်ပြီးငွေရင်း(Paid-Up Capital)ကို ထည့်သွင်းဖော်ပြထားခြင်းမရှိ၍ ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ခ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ်ခွဲ 12.3 တွင်ဖော်ပြထားသည့် Company Bonds များထုတ်ခြင်းနှင့် အပိုဒ်ခွဲ 12.18 ပါ Concession Rights နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ခ) ပါအတိုင်း ထပ်မံအကြံပြုပါသည်၊

(ဂ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ် 22 တွင် ပထမဆုံးဒါရိုက်တာများ၏ အမည်များကို ကွက်လပ်များဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ဖော်ပြရန်ဖြစ်ပါသည်၊

(ဃ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ် 26 တွင် "this Article of Association" ဟု ရည်ညွှန်းရေးသားထားရာ "this Memorandum of Association" အား ရည်ညွှန်းလိုခြင်းဖြစ်မည်ဟု ယူဆပါသဖြင့် ရည်ညွှန်းချက်များ မှန်ကန်စေရေးအတွက် ဌာနက သတိပြုစိစစ်သင့်ပါသည်၊

(င) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ်ခွဲ 40.10 တွင် ဖော်ပြထားသည့် "Company's Property" နှင့်စပ်လျဉ်း၍ လည်းကောင်း၊ အပိုဒ်ခွဲ 44.2 တွင် ဖော်ပြထားသည့် "Assets of the Company" နှင့်စပ်လျဉ်း၍ လည်းကောင်း မည်သည့်အရာများပါဝင်သည်ဟု မှတ်ယူရမည်ဖြစ်ကြောင်း ရှင်းလင်းမှုမရှိပါသဖြင့် နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(စ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ် 44 Responsibilities of the Managing Director ခေါင်းစဉ်ပါ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ သင့်လျော်မှုရှိ မရှိ၊ လက်ခံရန်သင့် မသင့် ဌာနက ပြန်လည်သုံးသပ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် 61.1 Valuation and Transfer of the Company upon Termination ခေါင်းစဉ်ပါ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဌ)ပါအတိုင်း ထပ်မံအကြံပြုပါသည်၊

(ဇ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ဖော်ပြပြီးဖြစ်သင့်ပါသည်၊

(ဈ) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းအပြင် သင်းဖွဲ့စည်းမျဉ်း (Articles of Association) ကိုလည်း မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၉ အရ အင်္ဂလိပ်-မြန်မာ နှစ်ဘာသာဖြင့် ရေးဆွဲပြုစုထားရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ ရည်ညွှန်းစာတွင် ဖော်ပြထားသည့် ၂၀၁၂ ခုနှစ် မတ်လမှစတင်ဆောင်ရွက်ခဲ့ပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံထားပြီးဖြစ်သည့် EIA ၊ SIA Report များကို ဤစာချုပ်၌ ပူးတွဲဖော်ပြပါ ပိုမိုသင့်မြတ်မှုရှိမည်ဖြစ်ပါသည်။

၈။ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်းများဥပဒေပုဒ်မ ၃(ဂ)တွင် "ရေနံနှင့် သဘာဝဓာတ်ငွေ့ရှာဖွေ ထုတ်လုပ်ဝယ်ယူရောင်းချခြင်းလုပ်ငန်းနှင့် ရေနံနှင့်သဘာဝဓာတ်ငွေ့ထွက် ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်" ဟု ပြဋ္ဌာန်းထားပါသည်။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၄ တွင် "အစိုးရအဖွဲ့သည် ပုဒ်မ ၃ အရ အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော စီးပွားရေးလုပ်ငန်းတစ်ရပ်ရပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အကျိုးစီးပွားအလို့ငှာ အစိုးရနှင့် အခြားမည်သည့်ပုဂ္ဂိုလ် သို့မဟုတ် မည်သည့်စီးပွားရေးအဖွဲ့အစည်းကမဆို ဖက်စပ်လုပ်ကိုင်ဆောင်ရွက်နိုင်ရန်ဖြစ်စေ၊ ပုဂ္ဂိုလ်တစ်ဦးဦး သို့မဟုတ် စီးပွားရေးအဖွဲ့အစည်း တစ်ခုခုက စည်းကမ်းသတ်မှတ်ချက်ဖြင့် လုပ်ကိုင်ဆောင်ရွက်နိုင်ရန်ဖြစ်စေ အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ ခွင့်ပြုနိုင်သည်" ဟု ပြဋ္ဌာန်းထားသဖြင့် အဆိုပါဥပဒေပုဒ်မ ၄ အရ ပြည်ထောင်စုအစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန်လိုအပ်ကြောင်း ဖော်ပြအပ်ပါသည်။

၉။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၁၀။ Longwin Global Petrochemical Company Limited သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေး အင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်

တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၁၁။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၂။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

**စွမ်းအင်ဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး**

စာအမှတ်၊ စဆ - ၈ / ၁၄၀ (၇၅ / ၂၀၁၆)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၁) ရက်

သို့

ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ Guangdong Zhenrong Energy Co.,Ltd. (GDZR) ၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (MEHL)နှင့် Yangon Engineering Group (YEG) တို့ "Longwin Global Petrochemical Company Limited" တည်ထောင်၍ တစ်နှစ်လျှင် ရေနံစိမ်း မက်ထရစ်တန်ချိန် ၅ သန်းချက်လုပ်နိုင်မည့် ရေနံချက်စက်ရုံတည်ဆောက်မှု စီမံကိန်းကို BOT စနစ်ဖြင့် ပူးပေါင်းဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ စွမ်းအင်ဝန်ကြီးဌာန၏ ၁၁-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ စီမံ-စာရင်း/၃/၀၃ (၁၆၅)၂၀၁၆

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသည် ပြည်ပကုမ္ပဏီ(၁)ခု၊ မြန်မာနိုင်ငံတိုင်းရင်းသားကုမ္ပဏီ(၂)ခုတို့နှင့်ပူးပေါင်း၍ Joint Venture Agreement ဖြင့် Longwin Global Petrochemical Company Limited ကို ရန်ကုန်မြို့၌ တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့၏ တောင်ဘက်သုံးမိုင်အကွာရှိ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင် ရေနံစိမ်းမက်ထရစ်တန်ချိန်(၅)သန်း ချက်လုပ်နိုင်မည့် ရေနံချက်စက်ရုံတည်ဆောက်မှုစီမံကိန်းကို BOT စနစ်ဖြင့် ဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ Joint Venture Agreement(မူကြမ်း)ကို စိစစ်ရာ စာရင်းစစ်ခန့်အပ်ရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအပြင် မြန်မာနိုင်ငံစာရင်းကောင်စီဥပဒေအရ သတ်မှတ်စည်းကမ်းချက်များနှင့်ပါ ကိုက်ညီရန်လိုအပ်ကြောင်း ပြန်ကြားအပ်ပါသည်။

မြိုးမြင့်
ပြည်ထောင်စုစာရင်းစစ်ချုပ်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ အမစ - ၁ / ၃ / ၉ ( ၁၄၃၆ / ၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ စွမ်းအင်ဝန်ကြီးဌာနနှင့် GUANGDONG ZHENRONG ENERGY CO., LTD၊ MYANMA ECONOMIC HOLDINGS LTD နှင့် YANGON ENGINEERING GROUP COMPANY LIMITED တို့အကြား လက်မှတ်ရေးထိုးချုပ်ဆိုမည့် Longwin Global Petrochemical Company Limited တည်ထောင်၍ ရေနံချက်စက်ရုံ တည်ဆောက်မှုစီမံကိန်းဆိုင်ရာ Joint Venture Agreement-JVA(မူကြမ်း)အပေါ် သဘောထားပြန်ကြားရန်ကိစ္စ

ရည်ညွှန်းချက် ။ စွမ်းအင်ဝန်ကြီးဌာန၏ ၄-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ စီမံ-စာရင်း/၃/၀၃ (၁၁၇)၂၀၁၆

၁။ စွမ်းအင်ဝန်ကြီးဌာနနှင့် GUANGDONG ZHENRONG ENERGY CO., LTD၊ MYANMA ECONOMIC HOLDINGS LTD နှင့် YANGON ENGINEERING GROUP COMPANY LIMITED တို့အကြား လက်မှတ်ရေးထိုးချုပ်ဆိုမည့် Longwin Global Petrochemical Company Limited တည်ထောင်၍ ရေနံချက်စက်ရုံ တည်ဆောက်မှုစီမံကိန်းဆိုင်ရာ Joint Venture Agreement-JVA (မူကြမ်း)အပေါ် အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားပေးပို့အပ်ပါသည် -

(က) JVA(မူကြမ်း)အရ စွမ်းအင်ဝန်ကြီးဌာနနှင့် GUANGDONG ZHENRONG ENERGY CO., LTD၊ MYANMA ECONOMIC HOLDINGS LTD နှင့် YANGON ENGINEERING GROUP COMPANY LIMITED တို့ပူးပေါင်း၍ Longwin Global Petrochemical Company Limited တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်တွင် တစ်နှစ်လျှင် မက်ထရစ်တန်ချိန် (၅)သန်းချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံတည်ဆောက်မှု စီမံကိန်းအား B.O.T စနစ်ဖြင့် တည်ဆောက်၍ လုပ်ငန်းလည်ပတ်ဆောင်ရွက်ရန်ဖြစ်ပြီး စီမံကိန်းကာလမှာ နှစ်(၅၀)ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) JVA(မူကြမ်း)အရ ဖက်စပ်အစုရှယ်ယာများအဖြစ် စွမ်းအင်ဝန်ကြီးဌာနမှ 3.5%၊ GUANGDONG ZHENRONG ENERGY CO., LTD မှ 70% ၊ MYANMA ECONOMIC HOLDINGS LTD မှ 20% နှင့် YANGON ENGINEERING GROUP COMPANY LIMITED မှ 6.5% အသီးသီးပါဝင်ကြောင်း တွေ့ရှိရပါသည်။

(ဂ) JVA(မူကြမ်း)ခေါင်းကြီးပိုင်းတွင် "..........AMONG MINISTRY OF ENERGY OF THE REPUBLIC OF THE UNION OF MYANMAR AND GUANGDONG

ZHENRONG ENERGY CO., LTD. AND MYANMA ECONOMIC HOLDINGS LTD. AND YANGON ENGINEERING GROUP COMPANY LIMITED" ဟု ပြင်ဆင်ဖော်ပြရန် အကြံပြုအပ်ပါသည်။

(ဃ) သဘောတူစာချုပ် အပိုဒ် 8.1 တွင် "MOE shall assist in acquiring the following exemptions and reliefs defined under Section 27 of the FIL shall be granted to the Project Company and the Project:" ဟု ဖော်ပြထားရာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေတွင် ပုဒ်မ ၂၇ ပါ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များတွင် ပုဒ်မခွဲ(က)မှအပ ကျန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ရင်းနှီးမြှုပ်နှံသူမှ လျှောက်ထားလာမှသာ စိစစ်ခွင့်ပြုပေးမည်ဟု ပြဋ္ဌာန်းထားသဖြင့် ဥပဒေနှင့် ကိုက်ညီမှုရှိစေရန် "MOE will assist the Project Company and the Project in acquiring exemptions and reliefs defined under Section 27 of the Foreign Investment Law. **Except tax exemption and relief contained in 8.1.1, the Project Company shall apply to MIC for one or more than one or all of the following tax exemptions or tax reliefs"** ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(င) သဘောတူစာချုပ် အပိုဒ် 8.1.7 တွင် "Right to carry forward and set-off up to 3 consecutive years from the year the loss is sustained within two years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business:"ဟုဖော်ပြထားရာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၇ (ဆ) ပါ စာသားအတိုင်း "Right to carry forward and set-off the **loss** up to 3 consecutive years from the year the loss is **actually** sustained within two years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business:" ဟုပြင်ဆင်ဖော်ပြသင့်ပါသည်၊

(စ) သဘောတူစာချုပ် အပိုဒ် 8.1.12 တွင် မြန်မာအစိုးရမှ Project Company အား ပေးအပ်ထားသည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို မည်သည့် ဥပဒေ၊ အစိုးရ (သို့မဟုတ်) ၎င်း၏ ဝန်ထမ်းများက ပြန်လည်ရုတ်သိမ်းခြင်း (သို့မဟုတ်) ရပ်ဆိုင်းခြင်းပြုလုပ်၍မရပါကြောင်း၊ သက်ဆိုင်ရာအခွန်ဥပဒေများနှင့်၄င်းသဘောတူစာချုပ်ပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကွဲလွဲမှုရှိပါက သဘောတူစာချုပ်ပါ အချက်များက လွှမ်းမိုးရမည် ဖြစ်ပါကြောင်း၊ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ရရှိပြီးနောက် သက်ဆိုင်ရာ အခွန်ဥပဒေများအား ပြောင်းလဲခြင်းနှင့် ပြင်ဆင်ခြင်းတို့ ပြုလုပ်ပါက အဆိုပါ ပြောင်းလဲခြင်းနှင့် ပြင်ဆင်ခြင်းတို့သည် Project Company အား မူလထက်ပိုမို၍ အခွန်ပေးဆောင်စေရပါက အဆိုပါ ပြောင်းလဲခြင်းနှင့် ပြင်ဆင်

ခြင်းတို့သည် Project Companyနှင့် သက်ဆိုင်ခြင်းမရှိပါကြောင်းနှင့် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ရရှိပြီးနောက် အစိုးရမှ အခြားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများသို့ပေးသောအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များသည် ၎င်းအားပေးထားသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များထက် ပိုများနေပါက Project Company သည် ယင်းကဲ့သို့ ပေးထားသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား အလိုအလျောက် ရရှိစေရမည်ဟုလည်းကောင်း ဖော်ပြထားရာ စာချုပ်ဝင် အချင်းချင်းအကြား ချုပ်ဆိုမည့် လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ်သည် နိုင်ငံတော်မှ လိုအပ်ချက်အရ ပြင်ဆင်ထုတ်ပြန်မည့် ဥပဒေများအပေါ် လွှမ်းမိုးသည့် သဘောသက်ရောက်နေပါသဖြင့် အပိုဒ် (8.1.12)အား ထည့်သွင်းချုပ်ဆိုရန် မသင့်ဟုသုံးသပ်ရပါသည်။

(ဆ) JVA(မူကြမ်း)ပါ စီမံကိန်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် တည်ဆဲပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ(၂၀၁၂)၊ ယင်းနှင့်သက်ဆိုင်သည့် နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်လည်းကောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ(၂၀၁၂)၊ ယင်းနှင့် သက်ဆိုင်သည့် နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်လည်းကောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၄၉/၂၀၁၄)နှင့် (၅၀/၂၀၁၄)တို့နှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

(ဇ) JVA(မူကြမ်း)ပါ စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ဒေသခံပြည်သူများ၏ သဘောထားနှင့်အညီ ဆောင်ရွက်ရန်နှင့် တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့်ဆောင်ရွက်ရန်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

(ဈ) JVA လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းနှင့် အသုံးပြုမည့်ငွေ ပမာဏတို့ကို လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ကဏ္ဍအလိုက် စီမံကိန်းရည်မှန်းချက်များနှင့် သက်ဆိုင်ရာ လုပ်ငန်းဆောင်ရွက်မည့် တိုင်းဒေသကြီး၊ ပြည်နယ်များ၏ ဒေသများအလိုက် စီမံကိန်းရည်မှန်းချက်များတွင် ထည့်သွင်းရေးဆွဲရမည်ဖြစ်ပါကြောင်းနှင့် ငွေလုံးငွေရင်းဖြစ်ပါက အမျိုးသားစီမံကိန်းတွင် ထည့်သွင်းနိုင်ရေးအတွက် စီမံကိန်းရေးဆွဲရေးဦးစီးဌာနသို့ ဆက်လက်ပေးပို့ရန်ဖြစ်ပါသည်။

(ည) JVA(မူကြမ်း)ပါ မိမိဘက်မှ တာဝန်ယူဆောင်ရွက်ပေးရမည့် ကိစ္စများ၊ လုပ်ငန်းကျွမ်းကျင်မှုဆိုင်ရာ သတ်မှတ်ချက်များနှင့်စပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်မှုရှိရန် လိုအပ်မည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာလုပ်ငန်း အကောင်အထည်ဖော်မည့် ဌာနအဖွဲ့အစည်းမှ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်။

၂။ JVA(မူကြမ်း)ပါ သတ်မှတ်ချက်များအပေါ် သက်ဆိုင်ရာဌာနမှ သဘောတူလက်ခံပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃။ JVA လက်မှတ်ရေးထိုးပြီးပါက Soft Copy နှင့် Hard Copy (၁)စုံစီကို ဤဝန်ကြီးဌာနသို့ ပေးပို့ပါရန် ညှိနှိုင်းအပ်ပါသည်။

၁၁/၁/၂၀၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းထွန်းနိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ

ဘဏ္ဍာရေး ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ဘဏ္ဍာ- ၂/ ၂/ ၂၆၄(၁၂၂၁/၂၀၁၆)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီး

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ စွမ်းအင်ဝန်ကြီးဌာန၏၄-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ စီမံ-စာရင်း/၃/၀၃(၁၁၈) ၂၀၁၆

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်း၊ Guangdong Zhenrong Energy Co., Ltd ( GDZR )၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် ( MEHL ) နှင့် Yangon Engineering Group ( YEG ) တို့ပူးပေါင်း၍ Longwin Global Petrochemical Company Limited ကို ရန်ကုန်မြို့၌ တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့၏ တောင်ဘက်သုံးမိုင်ခန့်အကွာရှိ ယင်းဘုတ်ကျေးရွာအနီးတွင် တစ်နှစ်လျှင် ရေနံစိမ်းတန်ချိန် (၅) သန်း ချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံတည်ဆောက်မှုစီမံကိန်းကို ပူးပေါင်းဆောင်ရွက်ရန် အတွက် ချုပ်ဆိုမည့် Joint Venture Agreement ( JVA ) မူကြမ်းအပေါ် ဤဝန်ကြီးဌာန၏ သဘောထား မှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူရန် လိုအပ်ပြီးတည်ဆဲ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေများနှင့်အညီ ဆောင်ရွက်သင့်ပါသည်။

(ခ) စီမံကိန်းနှင့်ပတ်သက်၍ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လူမှုအကျိုးစီးပွားအပေါ် အကျိုးသက်ရောက်မှုရှိ - မရှိ သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းသင့်ပြီးသက်ဆိုင်ရာဝန်ကြီးဌာနအနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီညှိနှိုင်း ဆောင်ရွက်သင့်ပါသည်။

(ဂ) စာချုပ်အပိုဒ် ( 5.2.1.1 ) တွင် စီမံကိန်းတန်ဖိုး၏ ၂၀% ကို Paid up Capital (သို့မဟုတ်) Shareholder Loan ဖြင့် ဆောင်ရွက်မည်ဟု လည်းကောင်း၊ စာချုပ်အပိုဒ် ( 5.2.1.2 ) တွင် စီမံကိန်းတန်ဖိုး၏ ၈၀% ကို ဘဏ်ချေးငွေမှတဆင့် Project Loan ပုံစံဖြင့် ဆောင်ရွက်မည်ဟုလည်းကောင်း ဖော်ပြထားပါသည်။သို့ပါ ၍ စာချုပ်မချုပ်ဆိုမီကပင်ချေးငွေကို မည်သည့်အတိုးနှုန်းဖြင့်ရယူမည်၊ စီမံကိန်း၏ ဝင်ငွေ၊

အသုံးစရိတ်စသည့် အချက်အလက်များကို သိရှိပြီးမှသာ စီမံကိန်းကို JV/BOT စနစ်ဖြင့် ဆောင်ရွက်ရန် သင့်မသင့် စိစစ်သင့်ပါသည်။

(ဃ) Joint Venture လုပ်ငန်းဆောင်ရွက်ရာတွင် နှစ်စဉ်ရရှိမည့် အမြတ်ခွဲဝေရရှိငွေများကို မြန်မာ့ရေနံဓာတုလုပ်ငန်း၏ ရသုံးမှန်းခြေငွေစာရင်း သာမန်စာရင်းအောက်တွင် သာမန်ရငွေအဖြစ် လျာထားရမည်ဖြစ်ပါသည်။

(င) Joint Venture Agreement စာချုပ်(မူကြမ်း)အပေါ် မြန်မာနိုင်ငံတံဆိပ်အကောက်ဥပဒေ နောက်ဆက်တွဲဇယား(၁)အရ ကျသင့်တံဆိပ်ခေါင်းခွန် ထမ်းဆောင်ရန်ဖြစ်ပြီး အဆိုပါ စာချုပ်(မူကြမ်း)ပါ စာပိုဒ် ၃၊စာပိုဒ်ခွဲ ၃.၄၊ ၃.၅နှင့် ၃.၆ တို့တွင် ဖော်ပြထားသော အခွန်ဆိုင်ရာကင်းလွတ်ခွင့်၊ သက်သာခွင့်များအပါအဝင် စာချုပ် (မူကြမ်း) အရ ဆောင်ရွက်မည့် အခြားအခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ တည်ဆဲအခွန်ဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်ဖြစ်ပါသည်။

(စ) အကောက်ခွန်ကင်းလွတ်ခွင့်ဆိုင်ရာကိစ္စရပ်များနှင့်ပတ်သက်၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုလုပ်ငန်းသည် ဘဏ္ဍာရေးဝန်ကြီးဌာန၏ အကောက်ခွန်ကင်းလွတ်ခွင့်ဆိုင်ရာဥပဒေ၊လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာလင်းအောင်၊ဒုတိယဝန်ကြီး)

မိတ္တူကို

- မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
- ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
- ငွေတိုက်ဦးစီးဌာန
- ပြည်တွင်းအခွန်များဦးစီးဌာန
- အကောက်ခွန်ဦးစီးဌာန

FROM :CBM-FIR&AML FAX NO. :067418161 Feb. 19 2016 02:45PM P1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စီစစ်/ ၄ (၅၀/၂၀၁၆)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ ။ **Longwin Global Petrochemical Company Limited မှ ရေနံချက်စက်ရုံစီမံကိန်းတည်ဆောက်ရန်အတွက် အဆိုပြုတင်ပြလာသော Joint Venture Agreement (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ စွမ်းအင်ဝန်ကြီးဌာန၏ ၄-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ စီမံ- စာရင်း/ ၃/ ၀၃ (၁၀၉) ၂၀၁၆

စွမ်းအင်ဝန်ကြီးဌာနမှ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ Guangdong Zhenrong Energy Group (GDZR)၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (MEHL) နှင့် Yangon Engineering Group (YEG) တို့ ပူးပေါင်း၍ Longwin Global Petrochemical Company Limited ကို တည်ထောင်ကာ ရေနံစိမ်းတန်ချိန် (၅) သန်း ချက်လုပ်နိုင်သည့် ရေနံချက်စက်ရုံတည်ဆောက်မှုစီမံကိန်းအတွက်ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း) အပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) စာချုပ် (မူကြမ်း) အပိုဒ် ၅.၂.၁ တွင် project အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမည့်ပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၆၀၃ ဘီလီယံ ခန့်မှန်းထားပြီး GDZR မှ ရင်းနှီးမြှုပ်နှံမှုပမာဏ၏ ၂၀% ခန့်အား မတည်ရင်းနှီးငွေ နှင့်/ သို့မဟုတ် shareholder loan အဖြစ်လည်းကောင်း၊ ၈၀%ခန့်အား ဘဏ်ချေးငွေဖြင့်လည်းကောင်း ယူဆောင်လာမည်ဖြစ်ကြောင်းဖော်ပြထားရာ Project Company အနေဖြင့် မြန်မာနိုင်ငံပြင်ပမှ နိုင်ငံခြားငွေဖြင့် shareholder loan များ၊ ဘဏ်ချေးငွေများ ယူဆောင်လာမည်ဆိုပါက နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဥပဒေ၊ စည်းမျဉ်းများနှင့်အညီ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ ခွင့်ပြုချက်ရယူရန် လိုအပ်ပါသည်၊

(ခ) စာချုပ် (မူကြမ်း) အပိုဒ် ၁၂.၃ တွင် ရေနံချက်စက်ရုံမှ ထွက်ရှိလာမည့် လောင်စာဆီနှင့် ရေနံထွက်ပစ္စည်းများအား ပြည်တွင်း၌ရောင်းချရန်မဟုတ်ဘဲ ပြည်ပသို့သာတင်ပို့ရောင်းချမည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် အဆိုပါပို့ကုန်ရောင်းရငွေများ

မြန်မာနိုင်ငံအတွင်းသို့ ပြန်လည်စီးဝင်မှု ရှိရန်လိုအပ်သည့်အတွက် ရောင်းချရငွေများ နှင့်စပ်လျဉ်း၍ မည်ကဲ့သို့လွှဲပြောင်းပေးပို့မည်ကို ထည့်သွင်းချုပ်ဆို သင့်ပါသည်၊

(ဂ) စာချုပ် (မူကြမ်း) General Obligations of MEHL၊ အပိုဒ် ၁၄.၃.၂ တွင် MEHL အနေဖြင့် သတ်မှတ်ထားသော လုပ်ငန်းဧရိယာအတွင်းရှိ မြို့နယ်များ၊ ကျေးရွာများ၊ စိုက်ပျိုးမြေများ၊ သစ်သီးခြံများ၊ ဘာသာရေးဆိုင်ရာအထိမ်းအမှတ်များ၊ ဘုန်းတော်ကြီးကျောင်းများ၊ ခရစ်ယာန်ဘုရားရှိခိုးကျောင်းများ၊ စာသင်ကျောင်းများနှင့် ဆေးရုံများအား ရွှေ့ပြောင်းပေးရမည်ဖြစ်ပြီး ပြန်လည်နေရာချထားခြင်းများ ဆောင်ရွက်ရမည် ဖြစ်ကြောင်း ဖော်ပြထားရာ MEHL အနေဖြင့် ဒေသခံအာဏာပိုင်များ၊ ဒေသခံများ ကျေနပ်မှုရှိစေရန်နှင့် ဒေသခံပြည်သူများ၏ အကျိုးစီးပွားအား အထူးသတိပြု ဆောင်ရွက်ရန်လိုအပ်ပါသည်၊

(ဃ) Chinese Technologies နှင့် Chinese Standard များနှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြထား၍ International Standard နှင့် Technology ကို တန်းမီ ခြင်း ရှိ/မရှိ Project မစမီကပင် စိစစ်ရန်လိုအပ်ပါသည်၊

(င) MEHL သည် အမေရိကန်နိုင်ငံအစိုးရ၏ SDN List တွင် ပါရှိဆဲဖြစ်၍ ၎င်းက shareholder အဖြစ်ပါဝင်သည့်ကုမ္ပဏီအနေဖြင့် ပြည်ပသို့ ငွေရေးကြေးရေးလွှဲပြောင်း ပေးချေမှုများ (financial transaction များ) ချောမွေ့စွာဆောင်ရွက်နိုင်ခြင်း ရှိ/ မရှိ စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် သတိပြုဆောင်ရွက်သင့်ပါသည်၊

(စ) ပူးတွဲတင်ပြလာသည့် မြေငှားစာချုပ်အရ မြေငှားချထားမည့်သူ (Lessor) မှာ MEHL ဖြစ်ပြီး မြေငှားရမ်းမည့်သူမှာ Longwin Global Petrochemical Company Limited ဖြစ်၍ ငှားရမ်းခများ ရရှိမည့်သူမှာ MEHL ဖြစ်ကြောင်း တွေ့ရှိရပါသည်။ နိုင်ငံပိုင်အဖွဲ့အစည်းဖြစ်သည့် စွမ်းအင်ဝန်ကြီးဌာနမှာ Joint Venture ကုမ္ပဏီတွင် အစုရှယ်ယာ ၃.၅% ပါဝင်ခွင့်ရှိကြောင်း တွေ့ရှိရပြီး နိုင်ငံတော်၏ ရေ၊ မြေများကို အသုံးပြုဆောင်ရွက်ခြင်းအတွက် Royalty Payment ကဲ့သို့သော ခံစားမှုမျိုးရရှိခြင်းမရှိကြောင်း သုံးသပ်တွေ့ရှိရပါသည်။

၁၉၊၂၊၂၀၁၆

ဥက္ကဋ္ဌ(ကိုယ်စား)

(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

# TABLE OF CONTENTS

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
# နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
# ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်
# အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

Form (1)

# Proposal Form of Investor/ Promoter for Investment to be Made in the Republic of the Union of Myanmar

To

Chairman

Myanmar Investment Commission

Nay Pyi Taw

Reference No. P-S/3/03( 171 )2016

Dated: 18 February 2016

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with The Foreign Investment Law by furnishing the following particulars:

1. The Investor's or Promoter's:

(a) Name: **Permanent Secretary**

(b) Father's Name: -

(c) ID No./National Registration Card No./ Passport No: **Ministry of Energy**

(d) Citizenship: **The Republic of the Union of Myanmar**

(e) Address in Myanmar **Office No.6, Nay Pyi Taw, the Republic of the Union of Myanmar**

(f) Residence Abroad: -

(g) Name of Principle Organization: **Ministry of Energy**

(h) Type of Business: **Petroleum Business**

(i) Principle Organization's Address: **Office No.6, Nay Pyi Taw, the Republic of the Union of Myanmar**

2. As the investment is to be made by Joint Venture, the particulars of the persons wishing to participate in the Joint-Venture with the promoters are:

